# ကမ္ဘာ့စံနမူရှင်

# ကိုယ်တော်သခင် ﷺ



ပြုစုသူ

**မွတ်ဖ်သီ မိုဟမ္မဒ်အာဆွင်းမ်(နဒ်ဝီ)**

(ကန့်သတ်)



# ဥယျောဇဉ်

## ဟာဇရသ် မော်လာနာ မွတ်ဖ်သီ အဗ္ဗဒွရ်ရဟီးမ်

## (မဇွာဟေ့ရီ၊ကာစေ့မီ၊နဒ်ဝီ)

## ဂျာမေ့အသွလ် ကောင်ဆရစ်လ်အစ္စလာမီယဟ် (မြစ်ငယ်) ကျောင်းအုပ်ဆရာကြီး

الحمد لله رب العالمين ، والصلاة والسلام على سيد الأنام والمرسلين ، وعلى آله الطاهرين وأصحابه الطيبين ، وعلى من تبعهم بإحسان إلى يوم الدين . وبعد ......

တမန်တော်မြတ် ﷺ ၏ အတ္ထုပ္ပတ္တိသည် လူသားမျိုးနွယ်တို့အတွက် မသိမဖြစ် သိထားရန် အရေးကြီးသော အချက်တစ်ခုပင်ဖြစ်သည်။

အကြောင်းမှာမူ တမန်တော်မြတ် ﷺ သည် လူသားမျိုးနွယ်စုတစ်ရပ်လုံး အတွက်ပင် မဟုတ်ဘဲ ကမ္ဘာခပ်သိမ်းအတွက်ပင် ကရုဏာမင်္ဂလာအတိပြီးသော နောက်ဆုံးပုဂ္ဂိုလ်မြတ် ဖြစ်တော်မူသည့်အတွက်ကြောင့်ပင်တည်း။

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ကုရ်အာန်ကျမ်းတော်မြတ်တွင် وما أرسلناك إلا رحمة للعالمين - "စင်စစ်သော်ကား (အို- နဗီတမန်တော်) ငါအရှင်မြတ်သည် အသင့်အား ကမ္ဘာခပ်သိမ်းတို့အဖို့ ကရုဏာတော် အဖြစ်နှင့်သာလျှင် စေလွှတ်တော်မူခဲ့ပေသည်။"ဟု မိန့်တော်မူထားပေသည်။

သို့ပါ၍မွတ်စ်လင်မ်တစ်မျိုးသားလုံးအတွက် အလွန်ပင်အရေးကြီးသော မဟာစံနမူနာရှင်ဖြစ်ကြောင်း အလ္လာဟ်ဟို့အရှင်မြတ်မှ မိမိမုကဒ္ဒပါဋ်တော်၌ ရှင်းလင်းပြတ်သားစွာဖြင့် အတိအလင်းကြေငြာထားတော်မူခဲ့သည်။

﴿لقد كان لكم في رسول الله أسوة حسنة إلخ﴾ ٣٣/٢١

ကေန်မလွဲ အသင်တို့အဖို့(ဝါ) အလ္လာဟ်အရှင်မြတ်ကိုလည်းကောင်း၊ နောက်ဆုံးနေ့ကိုလည်းကောင်း၊ ကြောက်ရွံ့သည့်ပြင် အလ္လာဟ်အရှင်မြတ်အား များစွာအောက်မေ့တသ သတိရလျက်ရှိသူအဖို့ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၌ မွန်မြတ်လှစွာသော စံနမူနာသည် ရှိပေသည်။(၃၃း၂၁)

ထို့အတွက်ကြောင့် အလ္လာဟ်ကိုချစ်သော အီမာန်ရှင်မှန်လျှင် တမန်တော်မြတ် ﷺ ၏ အတွင်းအပြင်ကို မိမိ၏ ဘဝတွင် ချယ်သဆင်မြန်းရန် ထိုက်သက်ပေသည်။ ဤအရေးကိုတွေးပြီး "ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင် ﷺ" ဟူသော ကျမ်းငယ်သည် မွတ်စ်လင်မ် အမျိုးသား/အမျိုးသမီးတိုင်း အတွက် တမန်တော်မြတ် ﷺ ၏ ကမ္ဘာ့စံတင်ထားသည့်စံနမူနာများဖြင့် လက်ဆွဲနှုတ်ဆက်တွေ့ဆုံရင်းနှီးစေမည့် ကျမ်းမွန်ဖြစ်ကြောင်း သတင်းကောင်းပါးလျှက် အကျိုးခံစားကြပါဟု တိုက်တွန်းနှိုးဆော်အပ်ပါသည်။

خادم جامعة الكوثر الإسلامية

عبدالرحيم المظاهري ، القاسمي ، الندوي

(٨/ربيع الأول / ١٤٣٤هـ ، ٢٠١٣/١/٢١م)



# ကျမ်းဦးစကား

## ဟာဇရသ် မော်လာနာမွတ်ဖ်သီ မိုဟမ္မဒ် အိုစာမာဟ်(ဂျီဝါး)
## (မဇွာဟေ့ရီနဒ်ဝီ)
## ဂျာမေ့အသွလ် ကောင်ဆရစ်လ် အစ္စလာမီယာ (မြစ်ငယ်မြို့)

الحمد لله الذي أنعم علينا بالإسلام ، وجعلنا من أمة حبيبه خير الأنام ، والصلاة والسلام على أفضل الرسل وأشرف الأنبياء الكرام ، وعلى آله وصحبه وذرياته وأهل بيته أهل الإسلام .وبعد ...

မွတ်စ်လင်မ်တစ်ဦးအဖြစ်သို့ ရောက်ရှိလိုသူသည် မိမိကိုယ်မိမိ မေးခွန်းတစ်ခုထုတ်ရန် လိုအပ်လာပါသည်။ "ငါသည် မည်သို့ပြုကျင့်မှ စစ်မှန်သော မွတ်စ်လင်မ်ဖြစ်နိုင်မည်နည်း၊ (သို့) "ငါ၏ နေ့စဉ်ရရှိသော (၂၄) နာရီကာလကို မည်သည့်စနစ်ဖြင့် ကုန်ဆုံးစေရမည်နည်း"။ ထိုအခါ စစ်မှန်သောအဖြေကို မရသေးမီ မိမိကျင်လည်နေသော ပတ်ဝန်းကျင်နှင့် ထိတွေ့ကြုံကြိုက်နေရသော ပုဂ္ဂိုလ်များ၏ အတုကို မသိမသာခိုးယူကာ ၎င်းတို့နည်းတူ ကျင့်ကြံနေရင်း ဘဝ၏ အစိတ်အပိုင်းတစ်ခုသည် တရွေ့ရွေ့ ကုန်ဆုံးခဲ့ရသည်ကိုလူတိုင်း မသိစိတ်ဖြင့် ကြုံကြိုက်နေရသည်ကို နောက်ဆုံးတွင် အမှန်တကယ် သိလိုက်ရပေတော့သည်။

သို့သော် စစ်မှန်သော "စံနမူနာ"အဖြစ် အန္တိုင်းမဲ့ ပြိုင်စံကင်းသည့် စံပြမဟာပုဂ္ဂိုလ်မြတ်မှာ ကိုယ်တော်မြတ်သခင် မိုဟမ္မဒ် ﷺ ပင် ဖြစ်ပါသည်။ ကိုယ်တော်မြတ် ﷺ ၏ ဘဝပုံရိပ်တစ်ခုတိုင်းသည် ကမ္ဘာတည်သရွေ့ လူသားမျိုးနွယ် တစ်ရပ်လုံးအတွက် အကောင်းဆုံး စံနမူနာပင်ဖြစ်ကြောင်း ချွင်းချက်

ကင်းမဲ့စွာ ယုံကြည်လက်ခံရပါသည်။ ယင်းပုံရိပ်များကိုပင် စွန္နသ်တော်ဟု တင်စား ခေါ်ဝေါ်ကြလေသည်။ သို့ရာတွင် မွတ်စ်လင်မ်အများစုမှာ အချိန်နှင့် ဆွလာ့သ် ဆောက်တည်ခြင်း၊ မုတ်ဆိတ်လေးထားလိုက်ခြင်း၊ ခြေမျက်စေ့ အထက်ပုဆိုး၊ ဘောင်းဘီ ဝတ်လိုက်ခြင်း၊ ထမင်းမစားမီ ဗိစ်မစ်လ္လာဟ် ဆိုလိုက်ခြင်း၊ လက်ဆေးပြီး အစာစားခြင်း စသည်တို့ကိုသာ ကျင့်သုံးလိုက်လျှင် ငါတို့ဟာ စွန္နသ်တော်အပေါ်မှာ ကျင့်သုံးလိုက်ပြီဟု မှတ်ယူနေကြသည်ကို တွေ့ရသည်။ ဖော်ပြပါ ကျင့်စဉ်များသည် ဧကန်ပင် စွန္နသ်တော်များ အနက်မှ ဖြစ်သည်မှာ ယုံမှားဖွယ်ရာ မဟုတ်ပါ။ သို့သော် လွဲမှားသော အချက်မှာကား သည့်အပြင် မြောက်မြားစွာသော စွန္နသ်တော်များ ကျန်ရှိပါသေးသည်။

ဘဝသက်တမ်း၏ စက္ကန့်မလပ်သော အချိန်တွင် လူတိုင်းသည် အကွဲအလွဲမရှိ လိုက်နာနိုင်သော စံနမူနာရှင်ကြီးမှာ ကိုယ်တော်မြတ်ကြီး ﷺ ၏ဘဝသာလျှင် ဖြစ်ပါသည်။ ရှုထောင့်အသွယ်သွယ်မှာ နေပြီး မည်သည့်လျှော့နည်းချက် (သို့) ဟာကွက် ဟူ၍ လုံးဝ တွေ့နိုင်မည်မဟုတ်ပေ။ သို့ရှိရာ ဖန်ဆင်းရှင်ကိုယ်တိုင် အာမခံချက်ပေးထားသော ဘဝပိုင်ရှင်သည် ကိုယ်တော်မြတ် ﷺ ပင် ဖြစ်ကြောင်း ဤသို့ မိန့်ကြားတော်မူထားပေသည်။

﴿لقد كان لكم في رسول الله أسوة حسنة إلخ﴾ ٣٣/٢١

ဧကန်မလွဲ အသင်တို့အဖို့(ဝါ) အလ္လာဟ်အရှင်မြတ်ကို လည်းကောင်း၊ နောက်ဆုံးနေ့ကို လည်းကောင်း၊ ကြောက်ရွံ့သည့်ပြင် အလ္လာဟ်အရှင်မြတ်အား များစွာ အောက်မေ့တသ သတိရလျက်ရှိသူအဖို့ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်၌ မွန်မြတ်လှစွာသော စံနမူနာသည် ရှိပေသည်။(၃၃း၂၁)

မွတ်စ်လင်မ်၏ နှလုံးသားနှင့် အသွေးအသားထဲ၌ ဤအချက်သည်

စိမ့်ဝင်ပျံ့နှံ့သွားဖို့ အရေးကြီးသည်။ ဤသို့ စွန္နသ်တော်ပေါ်မှာ မည်သို့ ကျင့်သုံးနိုင်မည်နည်း၊ سيـرة الـنبي (ခ) တမန်တော်မြတ်ကြီး ﷺ ၏ ထေရုပ္ပတ္တိများကို သိရှိမှသာလျှင် ထိုအတိုင်း ကျင့်သုံးနိုင်မည်။ ထို့ကြောင့် အစ္စလာမ့် သမိုင်းတွင် ခေတ်တိုင်း၌ မရေမတွက်နိုင်သော စီရသ် စာအုပ်ကြီးငယ်များ ရေးသားထုတ်ဝေခဲ့ကြသည်။

ယခုစာရှုသူရှေ့မှောက်၌ရှိသော "ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင် ﷺ " မည်သော စာအုပ်လေးမှာ ကျွန်တော်၏ချစ်တပည့် မော်လဝီဟာဖိဇ် မုဖ်သီ မိုဟမ္မဒ် အာဆွင်းမ် سـلـمـه الله ၏ ကြိုးပမ်းမှုတစ်ရပ်ဖြစ်ပါသည်။ ကျွန်တော့်အနေနှင့် ယင်းစာအုပ်ငယ်လေးကို စ-လယ်-ဆုံး (အချိန်ထုတ်ယူကာ) ကြည့်ရှုခဲ့ပါသည်။ တိုတောင်းလှသော်လည်း အကျိုးမနည်းလှသော ကျမ်းငယ်လေး တစ်အုပ်ဖြစ်ပြီး မွတ်စ်လင်မ်တိုင်း လွယ်ကူစွာ စီရသ်တော်ကို လေ့လာသိရှိကာ ကျင့်သုံးနိုင်မည်ဟု ယုံကြည်မိပါသည်။ အထူးသဖြင့် နောက်ဆုံးပိုင်းတွင် စာရေးသူမှ "သင့်လက်တစ်ကမ်းရှိ ကိုယ်တော့်ဘဝမှတ်တမ်း" ဟူသော ခေါင်းစဉ်ဖြင့် سيـــرت တော်၏ အကျဉ်းချုပ်ကိုလည်း ဖြည့်စွက်ရေးသားခဲ့ရာ အလွန်တန်ဖိုးရှိလှသော လက်ဆင့်ကမ်းခြင်းတစ်မျိုးဖြစ်ကြောင်းနှင့် မွတ်စ်လင်မ်အိမ်တိုင်းရှိ အများမြင်သာသော နေရာတွင် ချိတ်ဆွဲသင့်ပြီး ၊ သွားရင်းလာရင်းနှင့် سيـــرت တော်ကို ရင်းနှီးပြီး ကျင့်သုံးရန် လွယ်ကူစေသော အရာဖြစ်ကြောင်း အလ္လာဟ် အရှင်မြတ်ထံတော်တွင် မျှော်ကိုးပါသည်။

ထို့ပြင် ယနေ့မွတ်စ်လင်မ်ဖြစ်ပါလျက် အခြားလူမျိုးများ၏ စရိုက်၊ဓလေ့နှင့် စတိုင်လ်တို့ကို အတုခိုးကာ ပြောဆိုဆက်ဆံခြင်း သွားလာနေထိုင်ခြင်းနှင့် ဝတ်စားဆင်ယင်ခြင်းတို့ကို သိလျက်နှင့် ဖြစ်စေ၊ မသိရှိပဲဖြစ်စေ ပြုလုပ်နေကြသော

အချိန်၌ ဤစာအုပ်ငယ်လေးကို လူငယ်လူရွယ်များနှင့်တကွ အလ္လာအသီးသီးမှ မွတ်စ်လင်မ်များအား လက်ဆင့်ကမ်း ဖြန့်ဝေပေးသင့်ပါသည်။

အလ္လာဟ်အရှင်မြတ်သည် ဤစာအုပ်ငယ်လေးဖြင့် မွတ်စ်လင်မ်တိုင်းအား မိမိအချစ်တော်၏ ဘဝလမ်းစဉ်နှင့်အညီ ကျင့်ကြံနေထိုင်နိုင်သော စွမ်းအားများ ချီးမြှင့်တော်မူပါစေ။ ထို့နောက် စာရေးသူအား ကောင်းမြတ်သော အစားများ ပေးသနားတော်မူပြီး ကျွန်ုပ်တို့အားလုံးကို ကိုယ်တော်သခင် ﷺ ၏ စွန္နသ်တော်အပေါ် ဖဝါးခြေထပ်မကွာ လိုက်နာကျင့်သုံးရင်း ဘဝကုန်ဆုံးစေတော်မူပါစေ။ (အာမီးန်)

မိုဟာမ္မဒ် အိုစာမာဟ် ဂျီဝါး (မဇ္ဇာဟေ့ရီ၊ နဒ်ဝီ)
၁၄၃၄/ရဗီအွလ်အောက်ဝလ်လ (၆) ရက်
၁၈/၁/၂၀၁၃ (ည ၁၂း၀၀ နာရီ)



# အမှာစကား

## ဟာဇရသ်မော်လာနာ မုဖ်သီ မိုဟမ္မဒ် ဖာရူးက် နဒ်ဝီ

## ဂျာမေ့အသွလ် ကောင်ဆရစ် အစ္စလာမီယာ (မြစ်ငယ်မြို့)

"ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင်"အမည်ဖြင့် စာရေးသူ မောင်လာနာ မွဖ်သီမုဟမ္မဒ် အာဆွင်မ်း(နဒ်ဝီ)သည် ကိုယ်တော်မြတ် ﷺ ၏အကြောင်းအရာ အချို့ကို ကျမ်းကြီးကျမ်းငယ်များမှ ကောက်နုတ် တင်ပြထားပါသည်။ စာရေးသူ သည် ဖော်ပြပါကျမ်းငယ်တွင် စာမျက်နှာအရေအတွက်အရ နည်းပါးသော်လည်း မြောက်များစွာသော အကျိုးတရားများကို စုဆောင်းထားပေသည်။

ကိုယ်တော့်အကြောင်းကို မြန်မာစာပေဖြင့် ပြုစုထားသော ကျမ်းစောင် အရေအတွက်မှာ အလွန်ပင်နည်းပါးလှပေသည်။ ဝမ်းနည်းစရာကောင်းသည့် အချက်တစ်ခုမှာ ဤမျှနည်းပါးလှသော ကျမ်းငယ်များကိုပင် မြန်မာမွတ်စ်လင်မ် တို့အနက် လေ့လာမှတ်သား ကျင့်ဆောင်သူများမှာ မရှိသလောက်ပင်။ ထိုသို့ စာအုပ်စာပေ၊ အထူးသဖြင့် ဘာသာရေး အကြောင်းအရာများပါရှိသော စာအုပ် စာတမ်းများကို စိတ်ဝင်စားမှုနည်းပါးသော ယနေ့မြန်မာ့မြေမှ မွတ်စ်လင်မ်များ အဖို့ ဤကျမ်းငယ်သည် အလွန် တန်ဖိုးမဖြတ်နိုင်သော၊ စွဲဆောင်မှုကို ပေးနိုင် သော ကျမ်းငယ်ဖြစ်လိမ့်မည်ဟု မျှော်လင့်ပါသည်။

အလ္လာဟ်အရှင် ဤကျမ်းပြုစုသူ၊ လေ့လာသူများနှင့် အဖက်ဖက်မှ အားပေး အားမြောက်ပြုသူများ၊ ပံ့ပိုးပေးသူများအားလုံးအား နှစ်ဘဝ နှစ်ဌာန စလုံးတွင် ကောင်းသောအကျိုးကျေးဇူးများချီးမြှင့်ပေးသနားတော်မူပါစေ။

မွတ်ဖ်သီ မိုဟမ္မဒ် ဖာရူးက် နဒ်ဝီ

ဂျာမေ့အသွလ် ကောင်ဆရစ် အစ္စလာမီယာ-မြစ်ငယ်



# နိဒါန်း

الحمدللّٰه وحده ، والصلوة والسلام على من لانبي بعده...

လူသားတိုင်းအဖို့ စံနမူနာဟူသည် ရှိပါသည်။ တစ်ဦးတစ်ယောက်အား စံနမူနာမထားသူသည် အမှောင်လွှမ်းသော လမ်းခွဲစမ်းတဝါးဝါး ခရီးပြင်းနှင့် သကဲ့သို့ ရှိပေမည်။ မိမိ၏ ဖွဲ့၊ လုံ့လ၊ ဝီရိယ၊ ကိုယ်ပိုင်ကြိုးစားမှုတို့အား အခြေခံ ရုံ သက်သက်ဖြင့်မိမိလိုရာပန်းတိုင်အား လမ်းကိုင်နိုင်ရန်မှာ ခဲယင်းလှသည်။ သို့သာမက တစ်ဦးတစ်ယောက်အား ဘဝ၏လမ်းပြကြယ်၊ စံနမူနာအဖြစ်သတ်မှတ်ထားရန်မှာ အလွန်ပင် အရေးကြီးလှသည်။

မြင့်မြတ်တော်မူသော အရှင်မြတ်သည် လူသားအားလုံးအတွက် ကိုယ်တော်မြတ်ကြီး ﷺ ၏ ဘဝသက်တမ်းတစ်ခုလုံးတွင် အကောင်းဆုံးသော စံနမူနာအား ပြသထားပေသည်။

လူသားတစ်ဦးသည် မျိုးနွယ်နှင့် ကိုးကွယ်သည့် ဘာသာကို ရှေ့တန်းမတင်ဘဲ မျှတသောနှလုံးသားကိုသာ ရင်ဝယ်ပိုက်ပြီး ကိုယ်တော်မြတ်ကြီး ﷺ ၏ အတ္ထုပ္ပတ္တိအား လေ့လာမည်ဆိုပါက ထိုသူသည် သဘာဝကျလှသော လူနေမှုစနစ်တစ်ခုကို မုချတွေ့ရပေမည်။

စာရှုသူ လက်ဝယ်တွင်ရှိသော "ကမ္ဘာ့စံနမူနာရှင် ကိုယ်တော်သခင် ﷺ " အမည်ရှိ စာအုပ်ငယ်သည် ကိုယ်တော်မြတ်ကြီး ﷺ ၏ အတ္ထုပ္ပတ္တိနှင့် စပ်လျဉ်းသည့် မှတ်စုတစ်ခုသာ ဖြစ်သည်။ ယင်းမှတ်စုများအား အပိုင်း(၃)ပိုင်းတွင် ပြန့်နှံ့နေကြောင်း တွေ့ရပေမည်။

(၁) ဖွားတော်မူခန်းမှ နဗူဝသ်ဘွဲ့ထူးချီးမြှင့်ခံရချိန်အထိ (ဤအပိုင်း

အား အနည်းငယ် အကျယ်ချဲ့ရေးသားခဲ့သည်။)

(၂) နဗီဖြစ်ချိန်မှ ကွယ်လွန်ချိန်အထိ (ဤအပိုင်းအား အကျဉ်းရုံးသာ တင်ပြထားသည်။)

(၃) ကိုယ်တော်မြတ်ကြီး ﷺ နှင့် စပ်လျဉ်းသည့် ဗဟုသုတများ (ဤအပိုင်းတွင် ဗဟုသုတအများစုအား အသေးစိတ်ဖော်ပြရန်) ကြိုးစားခဲ့သည်။

ဤသို့ဖော်ပြရာတွင် ခိုင်မာသော ဟဒီးဆ်ကျမ်းများနှင့် စီရသ် ကျမ်းများအား မှီငြမ်းခဲ့သည်။ အများပညာရှင်များထံတွင် ရွေးချယ်ခံရသော အဆိုများကိုသာ ဦးစားပေးတင်ပြခဲ့သည်။ အချို့နေရာများတွင် စာပိုဒ်တစ်ပိုဒ်တိုင်းအတွက် ကျမ်းကိုများအား ဖော်ပြထားပြီး အချို့နေရာများတွင်မူ အခန်းတစ်ခုပြီးဆုံးသော အခါတွင်သာ ကျမ်းကိုးများကို ပူးပေါင်းဖော်ပြထားသည်။ သို့သော် ဤစာအုပ်ငယ်ပါ တင်ပြချက်တိုင်းအား ခိုင်မာသော ကျမ်းများမှသာ ကော်နှုတ်တင်ပြနိုင်ရန် ကြိုးစားခဲ့ပါသည်။

လူသားတစ်ဦးဖြစ်သည့် အားလျော်စွာ စီလျော်မှုမရှိကြောင်းနှင့် အမှားများကင်းမည် မဟုတ်ကြောင်းကိုလည်း ရိုးသားစွာ ဝန်ခံလိုပါသည်။

အဆုံးတွင် ကိုယ်တော်မြတ်ကြီး ﷺ ၏စီရသ်နှင့် ဦးစွာမိတ်ဆက်ပေးခဲ့သော မိခင်မွန် ချမ်းမြေ့ကြည်သာ (သာစည်) ၊ ဤစာအုပ်ငယ်အား ထုတ်ဝေရန် အကြံပြုတိုက်တွန်းခဲ့သော ဟာဂျီဦးရှဖီးအ်၊ အမှာစာရေးသားပြီး အားပေးခဲ့သော ကျေးဇူးရှင် ဆရာသခင်ကြီး မွတ်ဖ်သီ အဗ္ဗဒွရ်ရဟီးမ်(မဇ္ဇာဟေ့ရီ၊ ကာစေ့မီ၊ နဒ်ဝီ) နှင့် အသေးစိတ်ပြန်လည်စီစစ်ပေးခဲ့ကြပြီး အမှာစာများပါ ထပ်မံရေးသားပေးခဲ့သည့် ကျေးဇူးရှင်ဆရာ သခင်များဖြစ်ကြသော မွတ်ဖ်သီ မိုဟမ္မဒ် အိုစာမာဟ် (ကာစေ့မီ၊ နဒ်ဝီ၊ မဇ္ဇာဟေ့ရီ)၊ မွတ်ဖ်သီမိုဟမ္မဒ် ဖာရူးက်(နဒ်ဝီ)

တို့အားလည်းကောင်း၊ မြန်မာစာ စာလုံးပေါင်းသတ်ပုံများအား သေချာစွာ စစ်ပေးခဲ့သော နောင်တော် ဆရာဇကရီယာ(ခ)ကိုမင်း(B.A(his)) အားလည်းကောင်း၊ မေတ္တာအပြည့်ဖြင့် မျက်နှာဖုံး ဒီဇိုင်းဆွဲပေးခဲ့သော ဆရာဟာဖိဇ် ဆိုလိုင်မာန်(ရွှေစံပယ်စတိုး) ၊ စာအုပ်၏ Layout ပိုင်းကို တာဝန်ယူပေးခဲ့သော နောင်တော် မော်လဝီ မုဟမ္မဒ် အလ်ကောင်ဆရီ၊ ကဗျာများဖြင့်စာအုပ်ကို အလှချယ်ပေးခဲ့သည့် ချစ်တပည့်(၂)ဦး မုဟမ္မဒ် အိုကာရှား(အဖျောက်) ၊ မုဟမ္မဒ်အလီ (ချောက်) တို့နှင့် အဘက်ဘက်မှ စေတနာမှန်ဖြင့် ကူညီပေးခဲ့ကြသော မိတ်ဆွေများအားလုံးကို လည်း လှိုက်လှဲစွာ ကျေးဇူးတင်ရှိပါသည်။

အလ္လာဟ်အရှင်မြတ် ရေးသူ/ဖတ်သူများ၊ကျွန်ုပ်တို့အားလုံး၏ မိဘများ၊ ဆရာသမားများနှင့် မွတ်စ်လင်မ်ထုတစ်ရပ်လုံးအား မိမိတို့ပန်ဝန်းကျင် တစ်ခုလုံး တွင် ကိုယ်နှုတ်နှလုံး ဤသုံးပါးလုံးဖြင့် ချစ်နဗီ့ စီရသ်၏ မွှေးရနံ့များကို ပျံ့သင်း စေသူများစာရင်းတွင် ထည့်သွင်းပေးသနားတော်မူပါ။ ကိုယ်တိုင်လည်း သေတစ်ဖန်သက်ဆုံး ချစ်နဗီ၏ စီရသ်အတိုင်း လေ့လာကျင့်သုံးနိုင်စွမ်း ပေးသနားတော်မူပါ။ (အာမီးန်)

မိုဟမ္မဒ် အာစွင်းမ် နဒ်ဝီ၊ အာဗွလ်ဟာစနီ ၊ မဇ္ဇာဟေ့ရီ

၁၄၃၄/ရဗီအွလ်အောက်ဝလ်လ (၆) ရက်

၁၈/၁/၂၀၁၃



# မာတိကာ



# ချစ်နဗီမပွင့်ပေါ်မီအလျှင် ကမ္ဘာတခွင်

الـحـمـدلله على جميع النعم ، والصلاة والسلام على سيدنا محمد وآله وصحبه ماجرى المداد بالقلم ...

ခရစ်သက္ကရာဇ် (၆)ရာစုနှစ်သည် အမိုက်အမှောင်အား အကြိုက် ဆောင်ပြီး အလင်းတရားကင်းပါးသည့် ကာလဖြစ်ခဲ့သည်။ နဗီတမန် တော်များစိုက်ပျိုးခဲ့သည့် သာသနာ့သစ်ပင်ကြီးသည်လည်း ရေသွန်း လောင်းသူမဲ့ဘဝနှင့် ခြောက်ခမ်း ညှိုးနွမ်းသွားခဲ့ရသည်။ ကမ္ဘာတစ်ဝှမ်း လုံးတွင် ဆိုးသွမ်းမှုများ မင်းမူနေခဲ့သည်။ ယင်းကမ္ဘာတွင် လူသားများရှိ ခဲ့သည်၊ သို့သော် ၎င်းတို့ရင်တွင်းဝယ် လူစိတ်မရှိခဲ့။ နှလုံးသားများ ရှိခဲ့ သည်၊ သို့သော် ယင်းနှလုံးသားများအတွင်း အီမာန်အလင်းမရှိခဲ့။ မြောက်များစွာသော ထိုင်ဝိုင်းများရှိခဲ့သည်၊ သို့သော် ယင်းထိုင်ဝိုင်းများ တွင် သာသနာ့အကြောင်းများ ဖလှယ်ခြင်းမရှိခဲ့။ အိမ်ယာအဆောက် အအုံများရှိခဲ့သော်လည်း ယင်းအဆောက်အအုံများအတွင်း အလ္လာဟ့် နာမတော်အား မြွက်ဟတမ်းတမည့်သူ မရှိခဲ့။ အမျိုးသမီးများရှိခဲ့သည်၊ သို့သော် ၎င်းတို့ခန္ဓာကိုယ်ပေါ်တွင် အရှက်အိန္ဒြေ၏ ပုဝါမရှိခဲ့။ လူသား များ၏ ခန္ဓာကိုယ်သည် စိုပြည်ရွှင်ပြနေသော်လည်း ၎င်းတို့၏ စိတ်များ

မှာ ခြောက်ခမ်းညှိုးနွမ်းနေသည်။ ၎င်းတို့၏ ဦးနှောက်များသည် အမှန်တရားအား စဉ်းစားရန် မောပမ်းနွမ်းနယ်နေပေသည်။ အတွေးအခေါ်များ ဘေးချော်နေခဲ့ရပြီး တစ်ဦးနှင့်တစ်ဦး အမှန်တရားဘက်သို့ ချီတက်ရန် ပြောဖော်ပင်မရခဲ့ချေ။ မကောင်းမှုသည် ကောင်းမှုအား၊ အောက်တန်းကျမှုသည် မွန်မြတ်ခြင်းအား အနိုင်ရခဲ့သည်။ ဤသို့မကောင်းမှုများ မင်းမူထားသည့် ကမ္ဘာအား ဆန္ဒပြမည့်သူဟူ၍လည်း အလျှင်းမရှိခဲ့။

အချုပ်ဆိုရသော် လူသားထုတစ်ရပ်လုံးသည် အီမာန်နှင့်အလင်းတရားများနှင့် လက်မဲ့ဖြစ်ခဲ့ရသည်။ အစ္စလာမ့်အေးရိပ်ဆာယာအောက်တွင် မခိုလှုံခဲ့ချေ။ လူသားကိုယ်တိုင်မိမိကိုမိမိ သေးသိမ်အောင်ပြုနေခဲ့သည်။ အရှင်မြတ်အပြင် အခြားအရာများရှေ့တွင် ဦးညွှတ်မှုအား ဂုဏ်ယူဖွယ်အဖြစ် မှတ်ယူထားကြသည်။ အဖန်ဆင်းခံများအားလုံး၏ အကြိုက်အား ဆောင်ရွက်ပေးရန် လွယ်ကူပြီး အရှင့်အကြိုက် လိုက်ပေးရန် ခက်ခဲနေခဲ့ပေသည်။

မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် မိမိဖန်ဆင်းထားသည့် လောကအား ဖရိုဖရဲ ဖြစ်နေသည်ကို မလိုလားခဲ့။ ထို့ကြောင့် (ယင်းလောကတွင်) နဗီတမန်တော်တစ်ပါးအား စေလွှတ်ခဲ့ပေသည်။ ထိုနဗီတမန်တော်မြတ်သည် ထိုခေတ်ရှိ ဂုဏ်အသရေ အရှိဆုံး အမြင့်မြတ်ဆုံး မျိုးရိုးမှ ဖြစ်ခဲ့သည်။

## ကိုယ်တော်မြတ် ﷺ ၏ မျိုးရိုးစဉ်ဆက်

"မျိုးစေ့မှန်မှ ပင်သန်မည်"ဟူသော စကားပုံအရ အရာရာ

တိုင်းတွင် မှန်ကန်သော မျိုးစေ့သည် အခရာကျလှပေသည်။ လူတို့တွင်လည်း မှန်ကန်သော မျိုးရိုးစဉ်ဆက်သည် အဖိုးထိုက်လှသည်။ မျိုးရိုးသည် လူတစ်ဦးအား တိုင်းတာရန် ပေတံဆိုလျှင်လည်း မှားမည်မဟုတ်ပေ။

ဤရှု့ထောင့်မှ ကျွန်ုပ်တို့ချစ်နဗီ၏ မျိုးရိုးစဉ်ဆက်အား လေ့လာကြည့်ကြပါစို့။ ချစ်နဗီ၏ မျိုးရိုးစဉ်ဆက်မှာ. . .

မိုဟမ္မဒ်ဗင်န် အဗ္ဗဒ္ဒုလ္လာဟ် ဗင်န် အဗ္ဗဒ္ဒုလ် မွသ်သွလစ်ဗ် ဗင်န် ဟာရှင်မ် ဗင်န် အဗ္ဗဒေ့မိုနားဖ် ဗင်န် ကိုဆွိုက်ယ် ဗင်န် ကေလာဗ် ဗင်န် မွရ်ရဟ် ဗင်န် ကအ်ဗ် ဗင်န် လိုအိုက်ယ် ဗင်န် ဂါလိဗ် ဗင်န် ဖစ်ဟ်ရ် ဗင်န် မာလိက် ဗင်န် အန်နသွရ် ဗင်န် ကိနားနဟ် ဗင်န် ခိုဇိုင်မဟ် ဗင်န် မွဒ်ရိကဟ် ဗင်န် အိလ်ယားစ် ဗင်န် မိုသွက်ရ် ဗင်န် နိဇားရ် ဗင်န် မအဒ် ဗင်န် အဒ်နားန်။

မှတ်ချက်။ ။ ဤနေရာထိသာ ကိုယ်တော်မြတ်ကြီး ﷺ ၏ မျိုးရိုးစဉ်ဆက်အား ပညာရှင်များ တညီတညွတ်တည်း လက်ခံခဲ့ကြပေသည်။

သုခမိန်ကြီး အေမာမ်စိုဟိုင်လီ (رحمه الله)က မိန့်ခဲ့သည်။. . . "အဒ်နားန်အထိသာ ကိုယ်တော်မြတ်ကြီးကိုယ်တော်တိုင် မိန့်ကြားခဲ့သည်ကို သိရသည်။ ထိုထက်ပို၍ မမိန့်ခွဲခဲ့ပေ။ သို့သာမက ဟဇရသ် အဗ်ဒွလ္လာဟ် ဗင်န် မတ်စ်အူးဒ် رضي الله عنه သခင်ကြီးကမူ အဒ်နားန် ကျော်၍ ချစ်နဗီ၏ မျိုးရိုးစဉ်ဆက်အား တင်ပြသူများသည် လိမ်လည် မုသားပြောသူများဖြစ်သည်ဟု (၃) ကြိမ်တိုင်တိုင်မိန့်တော်မူခဲ့သည်။"

زاد المعاد للعلامة ابن القيم ١/٧١ـ نقلا عن تهذيب السيرة النبوية للإمام زكريايحيى بن شرف الدين النووي ص:١٥طبع مكتب النسيم ، الروض الأنف للإمام السهيلي ١/٣١

## ကိုယ်တော်မြတ် ﷺ ၏ နာမတော်များနှင့် ဘွဲ့သညာတော်များ

အမည်နာမသည်လည်း လူတစ်ဦးအတွက်အလွန်ပင် အရေးပါ အရာရောက်သည်။ "ရေးသားထားသော စာအားခေါင်းစဉ်ဖြင့်၊ လူသား အားအမည်နာမဖြင့် သိရှိနိုင်သည်"ဟု အရဗီစာဆိုတစ်ခုလာရှိပေသည်။ ထို့ကြောင့် ယခုဆက်လက်၍ ချစ်နဗီ၏ မင်္ဂလာရှိသော နာမတော်များ အား လေ့လာကြပါစို့. . .

## ချစ်နဗီ ﷺ ၏ နာမတော်များ

ဟဇရသ် ဂျုဗိုင်းရ်ဗင်န် မွတ်သွံအင်မ် ؓ သခင်ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်မြတ် မိန့်တော်မူသည်မှာ"ငါကိုယ်တော်၏ နာမတော်များမှာ (၅) ခုရှိသည်။ 'မိုဟမ္မဒ်'၊ 'အဟ်မဒ်' ၊ 'အလ်မာဟီ' ၊ 'အလ်ဟာရှိရ်' ၊ 'အလ်အာကိဗ်'

أخرجه البخاري في صحيحه باب ما جاء فى أسماء رسول الله صلى الله عليه وسلم ؛ر: ٣٥٣٢،

ومسلم ر: ٢٣٥٤، والترمذي ر: ٢٨٤٠

အေမာမ် အိဗ်နေ့အစာကိရ် သခင်ကြီးသည် မိမိ၏ تاريخ دمشق (ဒမတ်စ်ကဒ်မြို့တော်၏သမိုင်း)ကျမ်းတွင် ချစ်နဗီ၏ မြောက်များစွာ သော နာမများအား ဖော်ပြထားပေသည်။ အချို့မှာမူ အမည်နာမများ မဟုတ် ဂုဏ်ရည်ဝိသေသဆောင်အမည်များဖြစ်သည်။ အားလုံးသည် မှန်ကန် တိကျ၊ စံချိန်မှီသော ဟဒီးဆ်တော်များတွင် အတိအလင်း

လာရှိထားပေသည်။ البسط في "تهذيب السيرة النبوية" للنووي ص:١٧

အမည်နာမများ၊ဂုဏ်ရည်ဝိသေသများ များပြားခြင်းသည် ချစ်နဗီ၏ မွန်မြတ်မှုအား ဖော်ကျူးနေပေသည်။

## ကိုယ်တော်မြတ် ﷺ ၏ဘွဲ့သညာတော်များ

"သားမှာအချစ် မြေးမှာအနှစ်"ဟူသော ဆိုရိုးအရ အရဗ်တို့သည် မိမိတို့၏ သားများထွန်းကားလာသောအခါ မိမိတို့၏ ဘွဲ့သညာအဖြစ် သားရတနာများ၏ အမည်များအားမိမိတို့အမည်တွင် အထူးတလည်း ဖော်ကျူးကြပေသည်။ ချစ်နဗီ ﷺ ၏ ကျော်ကြားသော ဘွဲ့သညာမှာ အဗွတ်လ်ကာစင်မ် ဖြစ်သည်။

قال الحافظ الذهبي " في تاريخ الإسلام" (ص:٣٣) : وقدتواتر أن كنيته أبوالقاسم.تهذيب السيرة النبوية للنووي ص:١٦

ဟဇရသ် ဂျိဗ်ရအီးလ် عليه السلام သည် ချစ်နဗီအား အဗူအိဗ်ရာဟီးမ် ဟုလည်း ကင်ပွန်းတပ်ခေါ်ဝေါ်ခဲ့သည်။

انظر تهذيب تاريخ دمشق ؛لابن عساكر ١/٢٧٨،وقال رواه الدارمي، والبيهقي عن أنس .تهذيب السيرة النبوية للنوويص:١٦

## ချစ်နဗီ ﷺ ၏ ဖခမည်းတော်နှင့် မယ်တော်

နောက်ဆုံးနဗီတမန်တော်မြတ်၏ မိဘဖြစ်ရခြင်း၏ ဂုဏ်သည် အသေးအဖွဲမဟုတ်ပေ။ ထို့ကြောင့် အရဗ်တို့၏ စာတတ်ပေတတ် ပုဂ္ဂိုလ်အချို့သည် ဤဂုဏ်အားပိုင်ဆိုင်လိုကြသည်။ သို့သာမက (၃)ဦး

သော သူတို့သည် မိမိတို့၏ သားများအား "မိုဟမ္မဒ်"ဟုပင် အမည်ပေး ခဲ့ကြသေးသည်။ ၎င်းတို့မှာ (၁) မိုဟမ္မဒ် ဗင်န် စွဖ်ယားန်ဗင်န် မိုဂျာရှိအ် (၂) မိုဟမ္မဒ် ဗင်န် အိုဟိုင်ဟဟ် (၃) မိုဟမ္မဒ် ဗင်န် ဟွမ်ရားန်

مقتبسة من حاشية "تهذيب سيرة ابن هشام "لعبد السلام هارون ص : ٣٦

သို့သော် အများသူငါပိုင်ဆိုင်လိုသည့် နောက်ဆုံးနဗီ၏ မိဘ နှစ်ပါးဖြစ်ခြင်းဆိုင်ရာ ဘွဲ့သရဖူအား ဖခမည်းတော် အဗ္ဗဒွလ္လာဟ်နှင့် မယ်တော် အာမေ့နဟ်တို့က ပိုင်ဆိုင်သွားပေသည်။

ဖခမည်းတော်၏ အမည်မှာ အဗ္ဗဒွလ္လာဟ် ဗင်န် အဗ္ဗဒွလ် မွသ္တလိဗ် ဖြစ်၍ မယ်တော်၏ အမည်မှာ အာမေ့နာဟ် ဗင်န်သေ့ဝဟ်ဗ် ဖြစ်သည်။ تهذيب سيرة ابن هشام لعبد السلام هارون ص:٣١

## ချစ်နဗီ ﷺ မီးရှူးသန့်စင် ဖွားမြင်တော်မူခြင်း

ခေတ်သမယ၏ ဥယျာဉ်ပန်းမာန်တွင် နှလုံးရွှင်ပြုံးစေမည့် နွေဦး ပေါက် ရာသီသည် ကြိမ်ဖန်များစွာ ရောက်ရှိခဲ့ပေပြီ။ ဆန်းကြယ်လှသော အာကာသ ကောင်းကင်သည် ကမ္ဘာ့ဇာတ်ခုံကြီးကို မကြာခဏ အမျိုးမျိုး အဖုံဖုံ၊ အဆန်းဆန်းအပြားပြား မွမ်းမံခြယ်သခဲ့သည်မှာလည်း ရှုမငြီး ပင်ဖြစ်ခဲ့၏။ သို့ရာတွင် ဤနေ့သည် ကမ္ဘာ့သက်တမ်းတွင် အလွန်တရာ မှ ထူးဆန်းအံ့သြဖွယ်ဖြစ်သော နေ့ထူးနေ့မြတ်ကြီးပင်ဖြစ်၏။ ခေတ် ကာလကြီးသည် ထိုနေ့ကို စောင့်မျှော်ရာတွင် နှစ်ပရိစ္ဆေဒ ထောင် သောင်းမက ကုန်ဆုံးစေခဲ့ရပေပြီ။ အာကာသ ကောင်းကင်၊ ဂြိုလ်၊ နက္ခတ်၊ တာရာများသည်လည်း ကမ္ဘာတည်ဦး ပကတူးကပင် ထိုနေ့ကို

တမ်းတလျက်ရှိခဲ့၏။ စကြာဝဠာကြီးသည်လည်း ထိုအားသစ်မာန်သစ်များ ဖြည့်တင်းပေးပြီး နံနက်ကို စောင့်စားရာ၌ ညယံများစွာကို အလူးအလိမ့် ကုန်ဆုံးခဲ့ရရှာ၏။ မိုး၊ မြေ၊ နက္ခတ်၊ တာရာ၊ တော၊ တောင်များ သည်လည်း ထိုနေ့ကိုပင် မျှော်လင့်ချက်ကြီးစွာဖြင့် တမ်းတနေခဲ့သည်။ ကောင်းကင်ဘုံရှိ ကောင်းကင် တမန်များနှင့် လူ့ဘုံရှိ လူသားတို့သည်လည်း ထိုနေ့ကိုပင် စောင့်မျှော်လျက် ရှိကြကုန်၏။ ကမ္ဘာအဝှမ်းရှိ သက်ရှိ၊ သက်မဲ့၊ ပုပုရွရွ ၊ ဟူဟူသမျှတို့သည်လည်း ထိုနေ့ကိုပင် စောင့်စားလျက်ရှိကြကုန်၏။ တမန်တော် အီဗ်ရာဟီးမ်၏ သောင်ဝ်ဟီးဒ်၊ တမန်တော် ယူစုဖ်၏ အလှ၊ တမန်တော် မူစာ၏ ဖြာငွေ့ဟာ၊ တမန်တော် အီစာ၏ ပြန်လည် အသက်ရှင်စေမှု စသည်တို့သည် နှစ်ဘဝသခင်ကျေးဇူးတော်ရှင် ကြွရောက်တော်မူရန် ပဏ္ဏာမပင် ဖြစ်ချေသည်။

ကမ္ဘာအဝှမ်း စောင့်မျှော်လျှက်ရှိသော ကျက်သရေမင်္ဂလာ အပေါင်းနှင့် ပြည့်စုံသော ထိုနေ့သည်ကား ဤနေ့ပင်ဖြစ်ပေသည်။ ထိုနေ့ညဥ့်တွင် “ကစ္စရာ၏ နန်းတွင်းမှ မီးပန်းဆိုင်းများ ကြွေကျမြေခဲ့ရသည်။ အီရန်နိုင်ငံအခြေစိုက် မီးပုံကြီးသည်လည်း (မီးကိုးကွယ်သူများအဖို့ အမြဲတမ်းအတွက်) ငြိမ်းသက်သွားခဲ့သည်။ စာဝါမြစ်သည်လည်း ခမ်းခြောက်သွားခဲ့သည်။ အမှန်ဆိုရသော် “ကစ္စရာ”၏ နန်းတော်သာမက ကမ္ဘာ့အဝှမ်းရှိ ကြီးကျယ်ခမ်းနား၊ မြင့်မားသော နန်းတော်အားလုံးသည်ပင် လဲပြိုသွားခဲ့လေ၏။ အီရန်နိုင်ငံရှိ မီးပုံကြီးသည်သာမက ကုဖ်ရ် ၊ ရှစ်ရ်က် ၊ အမိုက်မှောင်၏ ငရဲမီးပုံကြီးသည်ပင် ငြိမ်းသက်

သွားခဲ့လေ၏။ နွေဦးပေါက်ရာသီတွင် သစ်ရွက်ခြောက်များ ကြွေကျ မြေခသည့်အလား မှားယွင်းလျက်ရှိသော ယုံကြည်ချက်များသည်လည်း ပြောက်ပျက်သွားခဲ့ရလေသည်။ သောင်ဝ်ဟီးဒ် (တစ်ပါတည်းသော အရှင်အား ကိုးကွယ်ယုံကြည်ခြင်း)၏ ပဲ့တင်သံသည် ကမ္ဘာတခွင်တွင် ရိုက်ခတ်သွားပေတော့သည်။ နဖူးစာကံကောင်းခြင်း၏ အသီးအပွင့်များ ပေးလေ့ရှိသည့် ဥယျာဉ်ကြီးသည်လည်း ပြန်လည် သာယာ စိုပြေလာ၏။ လူသားတို့၏ မွန်ရည်သော စာရိတ္တကြေးမုံသည်လည်း ပြန်လည် ကြည်လင်တောက်ပြောင်လာ၏။

ထိုနေ့သည် ဖခင်အဗ္ဗဒွလ္လာဟ် မိခင်အာမေနာတို့၏ အသက် တမျှ ချစ်မဝသော သားတော်၊ စကြာဝဠာ၏ အဓိပတိ၊ နှစ်ဘဝသခင်၊ နဗီရစူလ် တမန်တော် အပေါင်း၏ မကိုဋ်သရဖူ ၊ အလ္လာဟ်အရှင်မြတ်၏ ရစူလ်တမန်တော်မြတ် မီးရှူးသန့်စင် ဖွားမြင်တော်မူသောနေ့ ဖြစ်ခဲ့သည်။

နဗီတမန်တော်မြတ် ﷺ သည် ဆင်နှစ်(ယီမင်ဘုရင်ခံ အဗ်ရ-ဟဟ်က ကအ်ဗာကျောင်းတော်အား ဖြိုဖျက်ရန် စစ်တပ်ဖြင့် လာသော နှစ်) ရဗီအွလ်အောက်ဝ်ဝလ်လ (၉)ရက်၊ ခရစ်သက္ကရာဇ် ၅၇၁ခုနှစ် ဧပြီလ၊ ၂၂ရက်၊ တနင်္လာနေ့ နံနက်မိုးသောက်လင်းချိန်တွင် မီးရှူးသန့်စင် ဖွားမြင်တော်မူခဲ့သည်။ ဤအဆိုအား အီဂျစ်ပြည်ရှိ နက္ခတ်တာရာ အတတ်ပညာ ပါရဂူ မဟ်မူးဒ်ပါရှာ ခလီဖာသည် ဂဏန်းပညာအရ သက်သေသာဓက အမြောက်အမြားကို ကိုးကား၍ အတိအလင်း ထုတ်ဖေါ် ရေးသားထားလေသည်။

كماحقق العالم الفلكي الكبير محمود باشا المصريو كماقال القاضي المنصوربوري ؛ راجع (حاشية "السيرة النبوية " للعلامة أبي الحسن علي الندوي ؛ ص : ٩٩ ، سيرة النبي للعلامة الشبلي النعماني :ج :

١، ص : ١١١

## နို့တိုက်ကျွေးခြင်း

ဦးစွာပထမ ချစ်နဗီ ﷺ အား မိခင်မွန် အာမေနာ သခင်မကြီး သည် နှစ်ရက်/သုံးရက် တိုင်တိုင် နို့တိုက်ကျွေးခဲ့သည်။ ထို့နောက် အဗူလဟဗ်၏ ကျွန်မ ဖြစ်သူ ဆိုဝိုက်ဗဟ် သခင်မကြီးသည် ရက်အချို့ နို့တိုက်ခွင့် ရရှိခဲ့သည်။ ထို့နောက် ဟဇရသ် ဟလီမာ رضي الله عنهن جميعا သခင်မကြီးက ဆက်လက်နို့တိုက်ကျွေးခဲ့သည်။ ချစ်နဗီသည် သခင်မကြီး ၏ ပြုစုပျိုးထောင်မှု ရင်ခွင်တွင် (၂)နှစ်တိုင်နေထိုင်ခဲ့၏။ ၂နှစ်ပြည့်သွား သောအခါ ဟလီမာ သခင်မကြီးသည် မယ်တော် အာမေနာထံ ပြန် လည်ခေါ်ဆောင်လာခဲ့၏။ သို့သော် ဟလီမာ သခင်မသည် မက္ကာဟ် ရွှေမြို့တော်တွင် ပလိပ်ရောဂါများ ပျံ့နှံ့နေသောကြောင့် တဖန်ပြန် လည်၍ ချစ်နဗီအား မိမိဌာနေသို့ ခေါ်ဆောင်သွားခဲ့သည်။ ဒုတိယ အကြိမ် ခေါ်ဆောင်သွားသည့် ကာလနှင့်ပတ်သက်၍ စီရသ်(ချစ်နဗီ၏ အတ္ထုပ္ပတ္တိ) ပညာရှင်ကြီး အိဗ်နေ့ ဟေ့ရှားမ်ကမူ လအချို့ဟု ဖော်ပြခဲ့ သည်။ စီရသ် ပါရဂူကြီး အိဗ်နေ့ အိစ်ဟားက် သခင်၏ အဆိုအရမူ (၄)နှစ်ဖြစ်သည်။

سيرة النبي للعلامة شبلي النعماني ج : ١، ص : ١١٢، ١١٣، تهذيب سيرة ابن هشام ؛ ص: ٣٨

ပညာရှင်ကြီး အိဗ်နေ့ အဗ္ဗဒစ်လ်ဘရ်သည် မိမိ၏ التمهيد (နိဒါန်း) ကျမ်းတွင် (ဒုတိယအကြိမ်ပြန်လည်) ခေါ်ဆောင်လာချိန်တွင် ချစ်နဗီ၏ သက်တော်မှာ (၅)နှစ်နှင့် လအချို့ဟု အဆိုပြုထားပေသည်။

الروض الأنف؛ ج : ١، ص : ٢٨٨

## ယူးဆန်းအံ့ဖွယ် ဖြစ်ရပ်အသွယ်သွယ်

## ငယ်ရွယ်စဉ်က ပင်စာနာထောက်ထားတတ်သော ချစ်နဗီ

ဉာဏ်သွားထက်ချွန်ပညာရှိ ကဝိမွန်ကြီး အေမာမ်စိုဟိုင်လီ သည် မိမိ၏ الـــروض الأنف ကျမ်းတွင် ရေးသားထားသည်။ ကိုယ်တော်မြတ်ကြီး ﷺ သည် ဟလီမာသခင်မကြီး၏ နို့တစ်ဖက်ကိုသာ စို့လေ့ရှိသည်။ မိမိ၏ နောင်တော်များအတွက် အခြားတစ်ဘက်အား မစို့ဘဲ ထားတော်မူလေ့ရှိသည်။ الروض الأنف ؛ ج : ١، ص: ٢٨٥

## ဟလီမာသခင်မထံပါးတွင် ရင်တော်ခွဲခံရခြင်း

ချစ်နဗီ၏ ရင်တော်ခွဲခံရခြင်းနှင့် ပတ်သက်ပြီး ဟဒီးဆ်တော်ပေါင်း မြောက်မြားစွာလာရှိပေသည်။ အေမာမ်စိုဟိုင်လီနှင့် အခြားသော သုခမိန်ကြီးများ၏ အဆိုအရ ရင်တော်ခွဲခံရခြင်း ကိစ္စရပ်သည် နှစ်ကြိမ်တိုင် ဖြစ်ပေါ်ခဲ့သည်။ ပထမအကြိမ်သည် ဟဇရသ် ဟလီမာ သခင်မကြီးထံတွင် ချစ်နဗီ၏ နို့စို့ဖက် ညီနောင်နှင့်အတူ ဆိတ်ကျောင်းနေစဉ်ဖြစ်ပြီး ဒုတိယအကြိမ်သည် မေ့အ်ရားဂျ် ကောင်းကင်ဘုံနန်းသို့ မကြွမြန်းမီအလျင်ဖြစ်သည်။ ပထမအကြိမ်တွင် ရေခဲရေများထည့်ထားသော ရွှေလင်ပန်းမှ ရေခဲရေဖြင့် ချစ်နဗီ၏ နှလုံးသားတော်အား ဆေးကြောခဲ့ခြင်းဖြစ်ပြီး။ ဒုတိယအကြိမ်တွင် ဇမ်ဇမ်ရေဖြင့် နှလုံးတော်အား ဆေးကြောကြောင်းသိရသည်။

ဆက်လက်၍အေမာမ်စိုဟိုင်လီ သခင်ကြီးက ငယ်ရွယ်စဉ်ကာလတွင် ရေခဲရေဖြင့် ဆေးကြောရခြင်း၏ လျှို့ဝှက်ချက်သည် ယကီးန် (ယုံ

ကြည်မှု)၏ အေးမြမှု နှလုံးသားတွင်း သက်ဆင်းစေသောကြောင့်ဖြစ်ပြီး၊ ဒုတိယအကြိမ်ဇမ်ဇမ်ရေဖြင့် ဆေးကြောရခြင်းသည် သန့်ပြန့်စင်ကြယ်သည့် အရှင့်ထံတော်ပါးတွင် အခစားဝင်ရတော့မည်ဖြစ်ပြီး နမားဇ်ကဲ့သို့သော လူသားအား ခြောက်ပြစ်ကင်းသဲလဲစင် ပြုပေးမည့် ခဝပ်မှုအား လက်ခံရယူရန် ကြွမြန်းနေခြင်းဖြစ်သောကြောင့် ဂျစ်ဗ်ရအီးလ်သည် ဇမ်ဇမ်ရေဖြင့် ဆေးကြောလိုက်ခြင်းဖြစ်သည်။ ထို့နောက် ချစ်နဗီ၏ နှလုံးသားတွင်းတွင် အီမာန်နှင့် ဟစ်ကမ်မသ်၏ အလင်းတရားများအား (ထပ်မံ) ကွန့်မြူးစေလိုက်ခြင်း ဖြစ်ကြောင်း မိန့်ဆိုထားသည်။

الروض الأنف ؛ ج : ١، ص : ٢٨٨

## နဗူဝသ်တံဆိပ်တော်၏ လျှို့ ဝှက်ချက်

ချစ်နဗီ၏ နှလုံးတော်အတွင်းတွင် အီမာန်နှင့် ဟစ်ကမ်မသ်တော်၏ အလင်းတရားများ ကွန့်မြူးစေပြီးနောက် ကတိုးများဖြင့် ပြည့်နေသော အိပ်အားတံဆိပ်ခတ်နှိပ်ဘိအလား ချစ်နဗီ၏ လက်ပြင်တော်နှစ်ဘက်ကြားတွင် တံဆိပ်တော်ခတ်နှိပ်ခဲ့သည်။ နှလုံးသားနှင့် တည့်ညီနေသော လက်ပြင်တော်နှစ်ဖက်ကြားတွင် တံဆိပ်ခတ်နှိပ်ရခြင်း၏ အဓိက အကြောင်းအရင်းမှာ ထိုနေရာမှ ရှိုင်သွာန် မိစ္ဆာ၏ အနှောက်အယှက်များ ဝင်ရောက်တတ်သောကြောင့် ပင်ဖြစ်သည်။ ဤအတိုင်း ဟဇရသ် အိုမရ် ဗင်န်အဗ္ဗဒစ်လ်အဇီးဇ် ထံမှလည်း ဆင့်ပြန်ချက် လာရှိထားသည်။ الروض الأنف ؛ ج : ١، ص : ٢٨٨

ထို့နောက် ဟလီမာ သခင်မကြီးသည် ပထမအကြိမ် ရင်တော်

ခွဲခံရသောအခါ ထိတ်လန့်သွားခဲ့ပြီး မယ်တော်အာမေနာဟ်ထံ ချစ်နဗီအား ပြန်လည် အပ်နှံတော်မူခဲ့သည်။

ယင်းသို့အပ်နှံပြီးသည့်နောက် ချစ်နဗီသည် နို့တိုက်မိခင်အား ဘဝတွင် နှစ်ကြိမ်သာ တွေ့ခွင့်ရရှိခဲ့ကြောင်း အေမာမ်စိုဟိုင်လီသခင်က ရေးသားထားသည်။ ပထမအကြိမ်သည် ခဒီဂျာသခင်မကြီး မကွယ်လွန်မီ နို့တိုက်မိခင်သည် မိမိ၏ အရပ်ဒေသတွင် မိုးခေါင်၊ ရေရှား ကပ်ဆိုက်မှုများ ဖြစ်ပွားနေသောကြောင့် အကူအညီတောင်းခံရန် ရောက်ရှိခဲ့ရာ- ခဒီဂျာသခင်မကြီးကပင် ဟလီမာ သခင်မအား ဆိတ်အကောင်(၂၀) နှင့် ကုလားအုတ်အကောင်(၂၀) ဆက်သလိုက်လေသည်။ ဒုတိယအကြိမ်သည် ဟိုနိုင်းန် စစ်ပွဲနေ့တွင် တွေ့ခွင့်ရခဲ့ခြင်းဖြစ်သည်။

الروض الأنف ؛ ج : ١، ص : ٢٨٨

စီရသ်ပါရဂူကြီးများ၏ အဆိုပြုချက်အရ ဟဇရသ် ဟလီမာ သခင်မကြီးသည် အစ္စလာမ်သာသနာတော်အား လက်ခံခဲ့ကြောင်း သိရှိရသည်။ ပညာရှင်ကြီး ဟာဖိဇ် မို့ဃလ် သွာယာ ကမူ "ဟလီမာ သခင်မ အစ္စလာမ်သာသနာ သက်ဝင်ယုံကြည်ခြင်းနှင့် စပ်လျဉ်းသည့် ကောင်းမြတ်သော လက်ဆောင်" အမည်ဖြင့် ကျမ်းငယ်တစ်စောင် ပြုစုခဲ့ပေသည်။

## ဟဇရသ် ဟာရိစ် رضي الله عنه

ဟဇရသ်ဟလီမာသခင်မကြီး၏ ခင်ပွန်းသည် ဟဇရသ်ဟာရိဆ် အစ်ဗ်နု အဗ်ဒစ်လ်အုဇ်ဇာ ဖြစ်၏။ တမန်တော်မြတ်ကြီး နဗီဖြစ်တော်မူပြီးသည့်နောက် ဟာရစ်ဆ်သည် မက္ကာမြို့တော်သို့ လာရောက်ပြီး

အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခဲ့လေသည်။

الإصابة في تمييز الصحابة ج : ١، ص: ٣٨٣، نقلا عن سيرة النبي للنعماني ؛ ج : ١، ص : ١١٣

## နို့စို့ဖက်မောင်နှမများ

ချစ်နဗီ၏ နို့စို့ဖက်မောင်နှမမှာ လေးဦးရှိ၏။ (၁) အဗ္ဗဒ္ဒုလ္လာဟ် (၂) အနီစဟ် (၃) ဟိုဇိုင်ဖဟ် (၄) ဟဇ္ဇာဖဟ် ဟူ၍ဖြစ်သည်။ ဟဇ္ဇာဖဟ်သည် ရှီမာဟူသော ဘွဲ့ဖြင့် ကျော်ကြားခဲ့၏။ အဆိုပါ နို့စို့ဖက် လေးယောက်အနက် အဗ္ဗဒ္ဒုလ္လာဟ်နှင့် ရှီမာတို့သည် အစ္စလာမ်သာသနာကို သက်ဝင်ယုံကြည်ခဲ့ကြောင်း အခိုင်အမာသိရှိရ၏။ ကျန်နို့စို့ဖက်များ၏ အကြောင်းကိုကား အတိအကျ မသိရှိရပေ။

## မဒီနာမြို့သို့ ခရီးသွားတော်မူခြင်း

ချစ်နဗီ၏ သက်တော်(၆)နှစ်အရွယ်တွင် မယ်တော်အာမေ့နဟ် သခင်မသည် မဒီနာရွှေမြို့တော်တွင် မြေမြှုပ်သင်္ဂြိုလ်ထားသော တမန်တော်မြတ်၏ ဘခင်ကြီး သင်္ချိုင်းကို "ဇေယာရသ်" ပြုရန်အတွက် သွားခဲ့သည်။ ထိုခရီးစဉ်တွင် ချစ်နဗီအား ဖွားမြင်ပေးသူ ဝမ်းဆွဲ "အွမ်မေ့အိုင်မန်" လည်း အတူပါရှိခဲ့၏။

## မယ်တော်၏ အေးရိပ်ဆာယာ ကွယ်ပျောက်သွားခြင်း

ချစ်နဗီ၏ မိခင်သည် ဖော်ပြပါ ခရီးစဉ်တွင် မဒီနာမြို့၌ တစ်လကြာနေထိုင်ခဲ့၏။ ထိုခရီးမှအပြန် ဂျိုဟ်ဖဟ် ဟူသော နေရာနှင့် (၂၃) မိုင်ကွာဝေးသည့် "အဗ်ဝါ" ဟူသော ရွာတွင် ကွယ်လွန်သွားရှာ၏။ မိခင်

ကြီးအား ထိုနေရာ၌ပင် မြေမြှုပ်ခဲ့၏။ ထိုအချိန်တွင် မိတဆိုး၊ ဖတဆိုး ဖြစ်ရရှာသော ချစ်နဗီအား အွန်မေ့အိုင်မန် သည် မက္ကာဟ်မြို့တော်သို့ ခေါ်ဆောင်လာခဲ့လေသည်။

## အဗ္ဗဒွလ် မွသ်ွသွလစ်ဗ် ၏ ထိန်းသိမ်းစောင့်ရှောက်မှု

မိခင်ကြီး ကွယ်လွန်သွားသောအခါ ဘိုးတော်အဗ္ဗဒွလ် မွသ်ွ သွလစ်ဗ်သည် ချစ်နဗီအား ထိန်းသိမ်းမွေးမြူခဲ့သည်။ ဘိုးတော်သည်လည်း သက်တော်(၈၂) နှစ်အရွယ်သို့ရောက်သောအခါ ကွယ်လွန်သွားရှာ၏။ "ဂျဟူန်" မည်သော နေရာတွင် မြေမြှုပ်သင်္ဂြိုလ်ခြင်းခံရ၏။ ထိုအချိန်တွင် ချစ်နဗီ၏ သက်တော်မှာ (၈) နှစ်၊(၂)လ၊ (၁၀) ရက်သာ ရှိသေး၏။

## ဘကြီးတော် အဗူသွာလစ်ဗ်၏ ထိန်းသိမ်းစောင့်ရှောက်ခြင်း

ဘိုးတော် အဗ္ဗဒွလ် မွသ်ွသွလစ်ဗ်သည် ကွယ်လွန်ခါနီးအချိန်တွင် တမန်တော်မြတ်အား ထိန်းသိမ်းစောင့်ရှောက်ရန် မိမိသားတော် အဗူသွာလိဗ်ကို အမှတ်တရမှာကြားထားခဲ့၏။ အဗူသွာလိဗ်နှင့် ချစ်နဗီ၏ ဖခင်အဗ္ဗဒွလ္လာဟ်သခင်တို့သည် မိတူဘတူ ညီအစ်ကိုအရင်းများ ဖြစ်ကြသည်။ سيرة النبي للنعماني ؛ ج : ١، ص : ١١٥

## ဆိတ်ကျောင်းတော်မူခြင်း

သတ္တဝါများတွင် ဆိတ်သည် အလွန်သိမ်မွေ့လှသည်။ ထိန်း

ကျောင်းရအခက်ဆုံး သတ္တဝါတစ်မျိုးလည်းဖြစ်သည်။ သမိုင်းပညာရှင်များ၏ အဆိုများအရ ချစ်နဗီသည် ဟလီမာ သခင်မကြီး၏ ထံပါး၌လည်း သခင်မကြီး၏ ဆိတ်ငယ်များကိုကျောင်းခဲ့ဖူးသည်။ ထို့အတူ ဘိုခါရီကျမ်းတွင် ဟဇရသ် အဗူဟိုရိုင်ရဟ်၏ ဆင့်ပြန်ချက်တစ်ရပ်လည်း ဤသို့လာရှိထားသည်။ "အရှင်မြတ်စေလွှတ်ခဲ့သမျှသော နဗီတိုင်းသည် ဆိတ်ကျောင်းခဲ့သည်။ ထိုအခါ သာဝကကြီးများက "ချစ်နဗီလည်း ဆိတ်ကျောင်းခဲ့ပါသလား"ဟုမေးလျှောက်ကြရာ "ကီရားသွ် (အရပ်နိုင်ငံသုံး) ငွေအချို့ဖြင့် ဆိတ်ကျောင်းလေ့ရှိခဲ့ကြောင်း" မိန့်ခဲ့လေသည်။

رواه البخاري في صحيحه ؛باب رعي الغنم على قراريط ؛ ر: ٢٢٦٢

## ဝေဖန်သူအဖို့ အဖြေမှန်

ချစ်နဗီ၏ ဆိတ်ကျောင်းတော်မူခြင်းကိုကြည့်၍ အပြစ်ရှာလိုသူ ပြင်သစ် နာမည်ကျော် ရာဇဝင်ဆရာတစ်ဦးက "အဗူသွာလိစ်ဗ်သည် တမန်တော်မြတ်အား အထင်အမြင်သေးခဲ့၏။ ထို့အတွက်ကြောင့်လည်း ဆိတ်ကျောင်းစေခဲ့၏။" ဟုဆိုသည်။

ဤသည် ယင်းစာရေးဆရာ၏ အဗူသွာလိဗ်က ကိုယ်တော်သခင့်အပေါ် ထားရှိသည့် ချစ်ခြင်းမေတ္တာများအား မလေ့လာဖူး သောကြောင့်ပင်ဖြစ်သည်။

အဗူသွာလိဗ်သည် ချစ်နဗီအား မိမိ၏ သားသမီးအရင်းအချာများထက်ပင် ပိုမိုချစ်ခင်သည်။

ထို့အတူ ယင်းစာရေးဆရာသည် အရပ်တို့၏ သမိုင်းအား

လျစ်လျူရှု ထားသည့်အတွက်လည်းဖြစ်သည်။ အရပ်တို့ထံတွင် ဆိတ်ကျောင်းခြင်းသည် စက်ဆုတ်ဖွယ်ရာ မဟုတ်ပေ။ သို့သာမက ချမ်းသာကြွယ်ဝသူတို့၏ သားသမီးများပင်လျှင် ဆိတ်ကျောင်းလေ့ရှိသည်။

ကုရ်အာန်ကျမ်းတော်မြတ်တွင်မူ အောက်ပါအတိုင်း တွေ့ရှိရပေသည်။

﴿ولكم فيها جمال حين تريحون وحين تسرحون ﴾ النحل :٦

ငင်းပြင် အသင်တို့အဖို့ ထိုခြေလေးချောင်း တိရိစ္ဆာန်များ၌ ညနေအချိန်တွင် ကျောင်း၍ယူလာသောအခါ၌၎င်း၊ နံနက်အချိန်တွင် ကျောင်းရန် မောင်းနှင်သွားကြသောအခါ၌၎င်း၊ ဂုဏ်ကျက်သရေရှိသည်။ (၁၆း ၆)

အမှန်မှာ ဤကဲ့သို့ တမန်တော်မြတ် ဆိတ်ကျောင်းတော်မူခဲ့ခြင်းသည် ကမ္ဘာ့အိမ်ထောင်စုကြီးကို ထိန်းသိမ်းစောင့်ရှောက်တော်မူမည့် ပဏာမ အရိပ်နိမိတ်ပင် ဖြစ်ပေသည်။ တမန်တော်မြတ်သည် ငယ်ရွယ်စဉ်က ယင်းကဲ့သို့ ရိုးသားသည့်၊ နှစ်သက်ကြည်နူးဖွယ် ကောင်းလှသည့် ဆိတ်ကျောင်းသည့် အလုပ်ကို နဗီတမန်တော်အဖြစ် ချီးမြှင့်ခံရပြီးသည့် နောက်ပိုင်းတွင်လည်း ပြောပြလေ့ရှိသည်။

طبقات ابن سعد ج : ٨ ، ص : ٨٠ نقلا عن سيرة النبي ﷺ للعلامة شبلي النعماني

## ဆီးရီးယားနိုင်ငံသို့ ပထမအကြိမ် ခရီးစဉ်

ချစ်နဗီ၏ သက်တော် (၁၂)နှစ်၊ (၂)လ၊ (၁၀)ရက်သို့ရောက်သောအခါ ဘကြီးတော် အဗူသွာလိဗ်နှင့်အတူ ဆီးရီးယားနိုင်ငံသို့ ကုန်ကူးသန်းရောင်းဝယ်ရန် ထွက်ခဲ့သည်။ "ဗွတ်စ်ရာ" မြို့သို့ရောက်

သောအခါ ချစ်နဗီသည် ယင်းမြို့တွင် ဗဟီရာ အမည်ရှိ ဘုန်းတော်ကြီး တစ်ပါးနှင့် တွေ့ဆုံလေသည်။ ချစ်နဗီ၏ သွင်ပြင်လက္ခဏာတော်များ အား မြင်တွေ့ရသောအခါ ၎င်းက "ဤသူသည် စကြာဝဠာအပေါင်းဖို့ စေလွှတ်ခြင်းခံရသော တမန်တော်ဖြစ်သည်ဟု" ပြောကြားလေသည်။ ဆက်လက်၍ "အသင်တို့ တောင်ပေါ်မှ ဆင်းသက်လာသော အခါ ရှိရှိသမျှသော သစ်ပင်များနှင့် ကျောက်တုံးကျောက်ခဲအားလုံးတို့သည် ဦးညွှတ်ကြသည်။" ထို့နောက် အဗူသွာလိဗ်အား ဆီးရီးယားနိုင်ငံတွင်းသို့ ခေါ်ဆောင်သွားပါက ယဟူဒီများ ကိုယ်တော်မြတ်အား အဆုံးစီရင်လိုက် ကြမည် ဖြစ်ကြောင်း ပြောကြားလေသည်။

أخرجه الحاكم (٦١٥/٢) والترمذي (٣٦٢٠) وغيرهما نقلا عن نورالعيون ص : ٣٥

## "ဖေ့ဂျားရ်" စစ်ပွဲ

အစ္စလာမ်သာသနာတော် ထွန်းကားခါစ အချိန်အထိ အရဗ်လူ မျိုးများ၏ စစ်ပွဲများသည် ဆက်တိုက်ဖြစ်ပွားလျက် ရှိခဲ့သေးသည်။ ထိုစစ် ပွဲများတွင် "ဖေဂျားရ်" ကျူးကျော်စစ်ပွဲသည် ကြောက်မက်ဖွယ်ရာ အ ကောင်းဆုံးနှင့် အကျော်ကြားဆုံး စစ်ပွဲတစ်ပွဲ ဖြစ်သည်။ ယင်းစစ်ပွဲတွင် လည်း ချစ်နဗီသည် ထိပ်ဆုံးမှ ပါဝင်ခဲ့ပေသည်။ သို့သော် မိမိ၏ လက် တော်ဖြင့် မည်သူကိုမှ ကိုယ်ထိလက်ရောက် မတရား မစော်ကားခဲ့ပေ။

ဤစစ်ပွဲကို ကျူးကျော်စစ်ပွဲဟု ခေါ်ဆိုရခြင်းမှာ စစ်မက်ပြိုင် ဆိုင်တိုက်ခိုက်ခြင်းကို မြစ်တားထားသော အချိန်၌ ဖြစ်ပွားခဲ့ခြင်းကြောင့် ဖြစ်သည်။

## "ဟာစ်လ်ဖွလ် ဖို့သိုးလ် " အမည်ရှိ ပဋိညာဉ်စာချုပ်

ထိုစစ်ပွဲပြီးချိန်တွင် ကျူးကျော်စော်ကားမှု၊ ဆိုးသွမ်းမှု၊ ရက်စက်မှုများကို တွန်းလှန် ဖြိုဖျက်ရန် "ဟစ်လ်ဖွလ် ဖိုသိုးလ် " အမည်ရှိ ပဋိညာဉ်စာချုပ် ချုပ်ဆိုရာတွင်လည်း ချစ်နဗီ ပါဝင်ခဲ့ပေသည်။

၎င်းစာချုပ်အား ဖိုသိုးလ် စာချုပ်ဟု အမည်ပေးရခြင်းမှာ ယင်းစာချုပ်အား စတင်ချုပ်ဆိုရန် တွေးခေါ်မြော်မြင်မိသူတိုင်း၏ အမည်များသည် 'ဖဿွိလသ်' မွန်မြတ်ခြင်းဟူသော ပုဒ်မှ ဆင်းသက်လာသော ကြောင့်ဖြစ်သည်။ ပမာဆိုရသော် ဖိုသိုက်လ် ဗင်န် ဟရ်ဆ်။

سيرة النبي للعلامة شبلي ج : ١، ص : ١١٧-١١٨

## ဒုတိယအကြိမ် ဆီးရီးယားနိုင်ငံသို့

ချစ်နဗီသည် ငယ်ရွယ်စဉ်ကာလ၌ပင် ဘကြီးတော်အဗူသွာလိဗ်နှင့် အတူ ရောင်းဝယ်ရေးဆိုင်ရာ ခရီးများတွင် အတူလိုက်ပါတော်မူခဲ့သဖြင့်၊ ရောင်းဝယ်ရေးဆိုင်ရာ အတွေးအခေါ် အမြော်အမြင်များ၊ ဗဟုသုတများ ဆည်းပူးပြီးဖြစ်သည်။ ရောင်းဝယ်ရာတွင် ချစ်နဗီ၏ ဆက်ဆံမှု ကောင်းပုံ၊ မှန်ကန်ပုံ၊ သစ္စာသမာဓိရှိပုံနှင့် ကိုယ်ကျင့်တရားမြင့်မြတ်ပုံများ၏ ဂုဏ်သတင်းများသည်လည်း သင်းပျံ့လျက်ရှိသည်။ တိုင်းသူပြည်သား လူအများကပင်လျှင် ချစ်နဗီအား "အမီးန်" (သစ္စာသမာဓိရှင်) ဟူ၍ ဂုဏ်အင်ပေးအပ်ခဲ့ကြလေသည်။

ခဒီဂျာသခင်မကြီးသည် ဂုဏ်အသရေရှိ အမျိုးသမီးတစ်ဦးဖြစ်သည်။ ချစ်နဗီနှင့် အထက်မျိုးနွယ်ဆက်ငါးဆက်တွင် အမျိုးတော်စပ်

သည်။ အဘယ့်ကြောင့်ဆိုသော် ခဒီဂျာသခင်မသည် ကိုယ်တော်မြတ် ﷺ ၏ ဦးရီးသမီးဖြစ်သည်။ သခင်မကြီးသည် မွန်ရည်သော ဂုဏ်အသရေရှိသော အကျင့်စာရိတ္တကောင်းမွန် မြင့်မြတ်သော အမျိုးသမီးတစ်ဦးဖြစ်သဖြင့် အမိုက်ခေတ်တွင်ပင် လူအများက (သွာဟေ့ရဟ်) သန့်ရှင်းသူမဟု ခေါ်ဆိုကြသည်။ သခင်မသည် ပစ္စည်းဥစ္စာခနေ ပေါကြွယ်ဝသူလည်းဖြစ်ခဲ့သည်။

ထို့ကြောင့် ချစ်နဗီအား မိမိ၏ကုန်ပစ္စည်းများကို ဆီးရီးယားနိုင်ငံသို့ သွားရောက်ရောင်းချပေးရန် ကမ်းလှမ်းလာခဲ့သည်။ ယင်းကမ်းလှမ်းချက်အား ချစ်နဗီကလည်း လက်ခံသဘောတူခဲ့သည်။ သခင်မကြီးက မိမိ၏ ကျွန် မိုင်စရဟ် ဆိုသူကိုလည်း အဖော်ထည့်ပေးခဲ့သည်။

ချစ်နဗီသည် ဤခရီးစဉ်တွင်လည်း နတ်စ်သူရာ အမည်ရှိ ဘုန်းတော်ကြီးတစ်ပါး၏ တရားအားထုတ်ရာ အခန်းအနီးရှိ သစ်ပင်တစ်ပင်အောက်တွင် နားခိုခဲ့သည်။ ထိုအခါ ယင်းဘုန်းတော်ကြီးက "ဤသစ်ပင်အောက်တွင် နဗီမှအပ မည်သူမှ နားခိုခဲ့ခြင်းမရှိပါ" ဟု ပြောဆိုခဲ့သည်။

မိုင်စရဟ်ကလည်း"နေမွန်းတည့်ချိန် ကိုယ်တော်မြတ်ကြီး ﷺပေါ်တွင် ကောင်းကင်တမန်တော်နှစ်ပါးက အရိပ်ပြုပေးနေသည်ကို တွေ့မြင်ခဲ့ကြောင်း" ပြောကြားခဲ့သည်။

نور العيون ؛ص : ٣٦ـ ٣٧، تهذيب سيرة ابن هشام ؛ص : ٤٣

## ခဒီဂျာသခင်မနှင့် ထိမ်းမြားတော်မူခြင်း

ဤဒုတိယခရီးစဉ်မှ အပြန်တွင် ချစ်နဗီအား ခဒီဂျာသခင်မကြီး

သည် မိမိနှင့် ထိမ်းမြားရန် ကမ်းလှမ်းခဲ့သည်။ ထိုအချိန်တွင် ချစ်နဗီ၏ သက်တော်မှာ (၂၅)နှစ်၊ (၂)လ၊ (၁၀)ရက်သာ ရှိခဲ့သည်။ نورالعيون ؛ ص: ٣٧

## ကအ်ဗဟ်ကျောင်းတော်အား ပြန်လည် မွမ်းမံခြင်း

ကိုယ်တော်မြတ်ကြီး ﷺ ၏ သက်တော် (၃၅)နှစ်တွင် ကိုရိုက်ရှ်တို့သည် ကအ်ဗဟ်ကျောင်းတော်ကြီးအား ပြန်လည် မွမ်းမံခဲ့ကြသည်။ မွမ်းမံပြီးချိန် ကိုရိုက်ရှ် လူမျိုးတို့သည် ကျောက်နက်တော်အား တပ်ဆင်ရာတွင် သူတပ်မည်၊ ငါတပ်မည်ဟု ဆိုကာ အချင်းများခဲ့ကြသည်။ အဆုံးတွင် နံနက် မိုးသောက်လင်းချိန်ကအ်ဗဟ် ကျောင်းတော်ထဲသို့ ဦးစွာဝင်ရောက်လာသူအား ဤကိစ္စနှင့်ပတ်သက်၍ ဆုံးဖြတ်စေမည်ဟု တညီတညွတ်တည်း လက်ခံခဲ့ကြသည်။ နံနက်မိုးသောက်လင်းချိန် အားလုံး၏ ရှေ့မှောက်တွင် ချစ်နဗီသည် နေမင်းတစ်ဆူ အလား ပေါ်ထွန်းလာရာ အားလုံးက တစ်သံတည်း “ဤသစ္စာ သမာဓိရှင်၏ ဆုံးဖြတ်ချက်အား ကျွန်ုပ်တို့အားလုံး ကျေနပ်နှစ်သက်ကြပါသည်” ဟု ဟစ်ကြွေးလိုက်ကြသည်။ ချစ်နဗီသည် စောင်တစ်ထည်ယူလာစေပြီး အချင်းများနေသည့် မျိုးနွယ်များကို စောင်၏ ထောင့်တစ်ဖက်တိုင်းတွင် ကိုင်တွယ်စေပြီး မိမိကိုယ်တိုင်တပ်ဆင်ကာ ကမ္ဘာ့လူသားထု တစ်ရပ်လုံး အတွက် မေ့မရနိုင်သောမျှတသည့် အဆုံးအဖြတ်တစ်ခုအား ချမှတ်ခဲ့သည်။ تهذيب سيرة ابن هشام ؛ ص: ٤٦، والبيهقي في الدلائل :٦٢/٢ عن نور العيون ؛ ص: ٣٧

## ဖွားမြင်တော်မူခန်းမှ နဗီမဖြစ်ခင်ကာလထိ အကြောင်းအရာများမှ သင်ခန်းစာများ

ဤကာလထိ ချစ်နဗီ၏ ဘဝသက်တမ်းမှ အချို့သော သင်ခန်းစာများအား ထုတ်နှုတ်နိုင်ပေသည်။

(၁) မျိုးရိုးဂုဏ်မွန်မြတ်မှုသည် အရှင့်ဘက်သို့ ဖိတ်ခေါ်မည့်သူ၊ လူသားတို့အား ထိန်းကျောင်းပဲ့ပြင် သွန်သင်လမ်းညွှန်သူတစ်ဦးအဖို့ အလွန်ပင် အရေးပါလှသည်။ လူတို့သည် မျိုးရိုးဂုဏ်နိမ့်ကျသူတို့အား အရည်အချင်းများ ထွေးပိုက်ထားလင့်ကစား သေးသိမ်သောအရှုဖြင့်သာ ကြည့်လေ့ရှိသည်။

ထို့ကြောင့်လည်း ရောမနိုင်ငံ၏ ဘုရင်ဟေရတ်က်လ် သည် အဗူစွတ်ဖ်ယာန်အား ချစ်နဗီနှင့် ပတ်သက်ပြီး မေးမြန်းခဲ့သည့် ပထမဆုံးမေးခွန်းမှာ ؟ كيف نسبــه فيكم (အသင်တို့အနက် ယင်းနဗီ၏ မျိုးရိုးမည်သို့ ရှိသနည်း) ဟူ၍ဖြစ်သည်။ အဗူစွတ်ဖ်ယန်သည် ထိုအချိန်တွင် ချစ်နဗီ၏ ရန်သူဖြစ်သော်လည်း “ထိုနဗီသည် ကျွန်ုပ်တို့အနက် အမွန်မြတ်ဆုံးသော မျိုးရိုးမှ ဆင်းသက်လာသူဖြစ်သည်”။ ဟု ရိုးသားစွာ ဝန်ခံခဲ့သည်။ ထိုအခါ ဟေရတ်က်လ် က “မြင့်မြတ်တော်မူသော အရှင်မြတ်သည် မွန်မြတ်မှန်ကန်သော မျိုးနွယ်ကသာလျှင် နဗီတမန်တော်အား ရွေးချယ်လေ့ရှိသည်” ဟု ကောက်ချက်ချခဲ့ပေသည်။

အစ္စလာမ်သာသနာတော်မြတ်တွင်မူ လူတစ်ယောက်၏ ကောင်းမွန်ခြင်း မကောင်းခြင်းအား တိုင်းတာသည့် ပေတံသည် မွန်မြတ်သော မျိုးရိုးမဟုတ်ချေ။ သို့သာမက ကောင်းမွန်သော လုပ်ရပ်များ၊ သက္ကဝါ

ရှောင်ကြဉ်ခြင်းတရားများကိုသာ စံပြုသည်။ သို့သော် မွန်မြတ်သော မျိုးရိုးဂုဏ်၊ ကောင်းမွန်သော လုပ်ရပ်များဖြင့် မိမိဘ၀အား အလှဆင်သူသည် ရွှေပေါ်မြတင် သကဲ့သို့ ဖြစ်ချေသည်။ ဤအချက်အား ချစ်နဗီ၏ ဘ၀သက်တမ်းတွင် အပြည့်အ၀ ရှုစားနိုင်သည်။

(၂) ငယ်ရွယ်စဉ်ဘ၀တွင် ခက်ခဲ ကျပ်တည်းလွန်းသည့် အခြေအနေအား အဖော်ပြုလာရသူ၊ ဖတဆိုးအဖြစ်နှင့် ကြီးပြင်းလာသူသည် မိမိဘ၀တူများအား အခြားသူများ ထက်ပင်ပိုမို၍ စာနာထောက်ထားတတ်သည်။ ဒုက္ခအဏ္ဏ၀ါတွင် နစ်မွန်းနေသူများ၊ အားအင်ချိနဲ့မှု၏ ၀ဲဂယက်မှ ရုန်းမထွက်နိုင်သူများအား အေးအတူ၊ ပူအမျှ ခံစားပေးတတ်သည်။ သူဆင်းရဲများ၏ ခံစားချက်များအား စာနာထောက်ထားပြီး နားလည်ပေးနိုင်ရန်မှာ အရှင့်ဘက်သို့ ဖိတ်ခေါ်မည့် ဒါအီတိုင်းအဖို့ အလွန်ပင် လိုအပ်လှသည်။

(၃) အရိုးခံစိတ်ရင်းရှိသူများ နေထိုင်သည့်ပတ်၀န်းကျင်တွင် ကြီးပြင်းလာသော ပုဂ္ဂိုလ်၏ နှလုံးသားအား ရိုးသားမှု၏ ရောင်ပြန်ဟပ်ခြင်းသည် ဓမ္မတာပင်။ ယင်းကဲ့သို့သော အရိုးခံစိတ်ရင်းသည် သန့်ပြန်စင်ကြယ်သော နှလုံးသား၊ မျှတသော အတွေးအခေါ်၊ ဖြူစင်သော စိတ်ဓါတ်၊ ငြိမ်းချမ်းသော သဘောသဘာ၀များအား မွေးထုတ်ပေးတတ်သည်။ ဤအချက်အား အာရေဗျကျွန်းဆွယ်တွင် မှီတင်းနေထိုင်ကြသော အရပ်နိုင်ငံသားများတွင် တွေ့ရှိနိုင်သည်။ ထို့ကြောင့်လည်း မြင့်မြတ်တော်မူသော အရှင်မြတ်သည် ၎င်းတို့အား ကမ္ဘာတစ်ဝှမ်းလုံးတွင် မိမိ သာသနာတော်ပြန်ပွားရေးအတွက် အသုံးချခဲ့သည်။

(၄) ဤအတိုင်းပင် နဗီမြတ်စဉ်ကာလ၏ အတ္ထုပ္ပတ္တိလှပမှုသည် နောင်အနာဂတ်တွင် လူသားတို့အား အရှင့်ဘက်သို့ ဖိတ်ခေါ်ခြင်း၊ ၎င်းတို့၏ စာရိတ္တများအား ပဲ့ပြင်ထိန်းကျောင်းရာတွင် အလွန်စူးရှလှပေသည်။ ထို့အတူ လူတို့၏ ပုတ်ခပ်ဝေဖန်မှုများသည်လည်း အစွန်းအထင်း မကင်းခဲ့သည့် အတိတ်သမိုင်းကြောင်းပေါ် မူတည်လေ့ရှိသည်။

ချစ်နဗီသည် မိမိ၏ ဖြူစင်ရိုးသားသော နဗီမြတ်စဉ်ကာလ၏ အတ္ထုပ္ပတ္တိတစ်ခုလုံးအား ထိုခေတ်ရှိလူငယ်များ မကင်းနိုင်သော လောင်းကစားမှု၊ အရက်သေစာ သောက်စားမှု၊ တရားမဝင် ကာမကျူးလွန်မှု၊ စသည်တို့မှ ရှောင်ကြဉ်နိုင်ခြင်း၊ လောကီလောကုတ္တရာတွင် အကျိုးမဖြစ်ထွန်းစေမည့် ကိစ္စရပ်များအား ဥပေက္ခာပြုခြင်း၊ စီးပွားရေး လုပ်ရာတွင်လည်း သစ္စာသမာဓိအား ရှေ့တန်းတင်ခြင်းတို့ကြောင့် ပတ်ဝန်းကျင်ရှိလူသားများ၏ နှလုံးသားရင်ပြင်တွင် မိမိနှင့်ပတ်သက်သည့် ယုံကြည်မှု၊ အားထားမှု၊ လက်ခံမှု၊ ချစ်ခင်မှုတို့အား ကမ္ပည်းထိုးနိုင်ခဲ့သည်။

(၄) ထို့အတူ ချစ်နဗီသည် မိမိအတွက်ကြင်ဖော် ရွေးချယ်ရာတွင်လည်း အခြားအရာများကိုရှေ့တန်းမတင်ပဲ မိမိအတွက် သာသနာပြုရာတွင်အေးအတူ၊ ပူအမျှ ခံစားပေးမည့် သတ္တိရှင်ကိုသာ ရွေးချယ်ခဲ့သည်။ အသက်အရွယ်အရ မည်မျှကွာဟသည်။. . . လူပျိုနှင့် အအိုလက်မဆက်ရဆိုသော သဘာဝမကျသည့် ပတ်ဝန်းကျင်ရှိလူသားများ ခတ်ထားသော အစိမ်းရောင်တံတိုင်းအား ဂရုမမူခဲ့ပေ။ အပျိုနှင့် အအိုလက်မဆက်ရဟု သာသနာတော်မြတ်ကလည်း ပြဋ္ဌာန်းမထားပေ။ ထို့ကြောင့် ကျွန်ုပ်တို့အွမ္မသ်သူ/သားများသည်လည်း သာသနာကိုင်းရှိုင်း

သော အမျိုးသမီး/သားများနှင့်သာ လက်ဆက်၍ မိမိတို့၏ ဘ၀သက်တမ်းတစ်လျှောက်လုံးတွင် သာယာချမ်းမြေ့သော အိမ်ထောင်ရေးသုခ အစစ်အမှန်ကို ပိုင်ဆိုင်နိုင်ရန် ကြိုးစားရပေမည်။

## နဗီဖြစ်ခြင်း၏ နိဒါန်း

### ကံကောင်းခြင်းသတင်း ဖြာလင်းသော နံနက်ခင်း

လမ်းမှားမှု၏ ညဥ့်သည်သန်ခေါင်းယံသို့ရောက်ခဲ့ပေပြီ၊ ကံဆိုးခြင်း၏ ကာလမှာလည်း ကြာညောင်းခဲ့ချေပြီ။ ညဥ့်နက်လာသည်နှင့်အမျှ နံနက်လင်းချိန် နီးကပ်လာခြင်းမှာ လောက၏ နိယာမတရားပင်။

ချစ်နဗီ၏ သက်တော်သည်လည်း (၄၀) ပြည့်ခဲ့ပြီ။ လူသားတို့၏ အဖြစ်ဆိုးကိုလည်း ကြည့်နိုင်စွမ်းမရှိတော့ချေ။ နေမထိထိုင်မသာ ဖြစ်မှုမှာ အထွတ်အထိပ်သို့ ရောက်ရှိလာခဲ့သည်။ လူတို့နှင့် ဝေးလံသော နေရာတွင် တစ်သီးတခြား နေလိုစိတ် ပြင်းပြလာခဲ့သည်။ ထို့ကြောင့် မက္ကာဟ်ရွှေမြို့တော်မှ ထွက်ခွာပြီး အနီးအပါးရှိ လှိုဏ်မြောင်များတွင် ဝင်ရောက်သွားတတ်သည်။ ချစ်နဗီ ဖြတ်သန်းသွားလာရာလမ်းရှိ သစ်ပင်တိုင်း၊ ကျောက်ခဲတိုင်းသည် "အို-အလ္လာဟ်၏ စေတမန်၊ အသင့်ပေါ်သို့ ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်းပါစေ" ဟု ဆိုကြသည်။

"နုဗူဝသ်"နဗီတမန်တော်အဖြစ် ချီးမြှင့်ခံရတော်မူခြင်း၏ အစ ပဏာမ (အချီနိဒါန်း)သည် အိပ်မက်တွင် လျှို့ဝှက်ထားသော အရာများ၊ နက်နဲသော အချက်များကို စတင်မြင်မက်ခြင်းဖြစ်သည်။ အိပ်မက်တွင် မြင်မက်သမျှ အရာတိုင်းသည် မျက်မှောက်လက်တွေ့ ဖြစ်ပေါ်လာပေ

တော့သည်။

## "ဟေရာ"လိုဏ်ဂူအတွင်း

မက္ကာဟ်မြို့တော်နှင့် (၃) မိုင်အကွာအဝေးတွင် ဟေ့ရာ အမည်ရှိ လိုဏ်ခေါင်း တစ်ခုရှိ၏။ တမန်တော်မြတ်ကြီးသည် ထိုလိုဏ်ဂူတွင် သွားရောက် တရားအားထုတ်လေ့ရှိ၏။

## နဗီအဖြစ်ခန့်အပ်ခံရခြင်း

ဩဂုတ်လ (၆)ရက်နေ့၊ ခရစ်သက္ကရာဇ် ၆၁၀ ခုနှစ်၊ ရမ်ဇန် လမြတ်တွင် ကောင်းကင်တမန်တော် ဂျစ်ဗ်ရအီးလ်သခင်သည် ပထမဆုံး (ဗျာဒိတ်တော်) ဝဟီဖြစ်သည့် စူရဟ်အလတ်က်၏ အစပိုင်း (၅) အာယသ်အား ယူဆောင်လာခဲ့သည်။ (၉၆း၅)

تهذيب سيرة ابن هشام ؛ ص : ٤٨، السيرة النبوية للإمام الندوي ؛ ص: ١١٥

## နဗူဝသ် "နဗီဖြစ်ခြင်း၏ဘွဲ့ထူးအား" ချီးမြှင့်ခံရ ချိန်မှ ဝဖါးသ်ထိ အကျဉ်းချုံး တင်ပြခြင်း

ချစ်နဗီသည် နဗူဝသ် ရချိန်မှစ၍ လူသားတို့အား အရှင့်ဘက်သို့ ဖိတ်ခေါ်ခဲ့သည်။ ဦးစွာပထမ ချစ်နဗီ၏ ဇနီးကြင်ယာတော် ခဒီဂျာ သခင်မကြီး အစ္စလာမ်သာသနာတော်အား လက်ခံခဲ့သည်။ ထို့နောက် မွတ်စ်လင်မ်ဖြစ်လာသူများ၏ ဦးရေသည် တစ်နေ့တခြား တိုးပွားသွားခဲ့ သည်။ ကိုရိုင်ရှ် မျိုးနွယ်မှ လူအများစုသည် ချစ်နဗီအား ဆန့်ကျင်

ခဲ့ကြသည်။ အစ္စလာမ်သာသနာဝင်များကိုလည်း နည်းအမျိုးမျိုးဖြင့် ညှင်းပမ်းနှိပ်စက်ခဲ့ကြသည်။ အဆုံးတွင် ချစ်နဗီ၏ မျိုးနွယ်ဝင်များဖြစ်ကြသော ဗနူဟာရှင်မ်နှင့် ဗနူအဗ်ဒွလ် မွတ်သွလစ်ဗ်တို့အား စီးပွားရေး၊ လူမှုရေးဆိုင်ရာ အဆက်အသွယ် အရပ်ရပ်အား ဖြတ်တောက်ပစ်ကြရန် ကြံစည်ကြသည်။ (၃) နှစ်ကြာ အဆက်အသွယ်ဖြတ်ခံဘဝဖြင့် အဗူသွာလိဗ်အမည်ရှိ လျှိုမြောင်တွင် ချစ်နဗီ၊ ဟာရှင်နှင့် အဗ်ဒွလ်မွတ်သွလိဗ်၏ သားမြေးတို့သည် နေထိုင်ခဲ့ကြသည်။ ထိုလျှိုမြောင်မှ သက်တော် (၄၉) နှစ်တွင် ပြန်လည် ထွက်ခွာလာခဲ့သည်။

လျှိုမြောင်မှ ထွက်လာပြီး (၈) လနှင့် ၂၁ရက် အကြာတွင် ဘကြီးတော် အဗူသွာလိဗ် ကွယ်လွန်သွားခဲ့သည်။ အဗူသွာလိဗ် ကွယ်လွန်ပြီး (၃) ရက်အကြာတွင် ကိုယ်တော်မြတ်ကြီး၏ အချစ်ဆုံး ကြင်ယာတော် မိခင်မွန်ကြီး ဟဇရတ် ခဒီဂျာသခင်မသည်လည်း အလ္လာဟ့်အမိန့်တော်ခံယူသွားခဲ့သည်။

أخرجه البيهقي في الدلائل؛ ٣٥٢/٢وغيره نقلا عن نور العيون؛ ص: ٣٩

ဤနှစ်တွင် ဆက်လက်၍ ဟဇရတ် စောင်ဝ်ဒဟ်နှင့် နေကာဟ် ပြုခဲ့သည်။

သက်တော် (၅၀)နှစ်၊ (၃)လသို့ရောက်သောအခါ တူရကီနိုင်ငံ နစ္စီဗီးန်မြို့မှ ဂျင်အချို့ချစ်နဗီထံ အခစားဝင်ပြီး အစ္စလာမ်သာသနာတော်အား လက်ခံခဲ့ကြသည်။

أخرجه البخاري (٣٨٦٠) وغيره نقلا عن نور العيون؛ ص: ٣٩

ချစ်နဗီ၏ သက်တော် ၅၁နှစ်၊ (၉)လတွင် ဂျေရုစလင်မ်ရှိ

ဗိုင်သွလ် မိုကဒ္ဒတ်စ် ဝတ်ကျောင်းသို့ ညခရီးဖြင့် ပင့်ခေါ်ခြင်းခံရသည်။ ထိုဝတ်ကျောင်းတော်မှ ဘိုရားက် အမည်ရှိ အစီးအနင်းဖြင့် မိုးကောင်းကင်သို့ ကြွမြန်းပြီး နမားဇ်ကို အရှင့်ထံမှ လက်ဆောင်အဖြစ် ချီးမြှင့်ခြင်းခံခဲ့ရသည်။

ဤနှစ်တွင် မိခင်မွန်ကြီးအာအေရှာနှင့် လက်ဆက်ခဲ့သည်။ မဒီနာမြို့တော်မှ ပဒေါယသ်ကံထူးရှင် (၆)ဦးလည်း အစ္စလာမ်သာသနာတော်လက်ခံခဲ့သည်။

သက်တော် (၅၃)နှစ်၊ ဟစ်ဂျ်ရီ (၁)ခုနှစ်၊ ဆွဖရ်လ၊ (၂၆) ရက်နေ့တွင် မက္ကာဟ်ရှိ ကာဖိရ်အချို့က ချစ်နဗီအား အဆုံးစီရင်ရန် ကြံစည်ခဲ့ကြသည်။ သို့ရှိရာ ဆွဖရ်လ၊ (၂၇)ရက်၊ ခရစ်သက္ကရာဇ် ၆၂၂ခု၊ စက်တင်ဘာလတွင် ချစ်နဗီသည် အလွန်တွယ်တာရသည့် မွေးရပ်မြေ မက္ကာအား နှုတ်ဆက်ခဲ့ပြီး မဒီနာရွှေမြို့တော်သို့ ဟစ်ဂျ်ရသ်ပြု ပြောင်းရွှေ့တော်မူခဲ့သည်။

ရဗီအွလ်အောက်ဝလ် (၁၂) ရက်၊ ခရစ်သက္ကရာဇ် ၆၂၂ခု၊ စက်တင်ဘာလ ၂၇ ရက်၊ သောကြာနေ့တွင် ကိုယ်တော်မြတ်ကြီး ﷺ သည် မဒီနာရွှေမြို့တော် ရောက်ရှိတော်မူခဲ့သည်။

သက်တော် (၅၄)၊ ဟစ်ဂျ်ရီ (၂)ခုနှစ်တွင် အဗ်ဝါ၊ ဘိုဝါးသ်၊ ဗဒ်ရ် အူလာ၊ ဇွလ် အွတ်ဆ်ရ် ၊ ဗဒ်ရ် ကွဗ်ရာ ၊ ဘနူကိုင်နိုကားအ် ၊ စိုဝိုက်၊ ဗနူစိုလိုင်းမ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဤနှစ်တွင်လည်း ချစ်နဗီအား တတိယအကြိမ် အဆုံးစီရင်ရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ကြချေ။

**သက်တော် (၅၅) ဟစ်ဂျရီ (၃) ခုနှစ်တွင်....**

ဂသွ်ဖားန်၊ နဂျ်ရားန်၊ အိုဟိုဒ်၊ ဟမ်ရာအိုလ် အစဒ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဟဇရသ်ဟဖ်ဆွဟ်ဗင်န်သေ့ အိုမရ်၊ ဟဇရသ် ဇိုင်နဗ် ဗင်န်သေ့ ခိုဇိုင်မဟ် رضي الله عنهم တို့ဖြင့် ထိမ်းမြားခဲ့သည်။

သက်တော် (၅၆)၊ ဟစ်ဂျရီ (၄)ခုနှစ်တွင်. . .

ရဂျီးအ်၊ ဗီးရေ့မအူနဟ်၊ ဘနူနဇွီးရ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဟဇရသ် အွမ်မေ့စလမဟ် နှင့် ထိမ်းမြားခဲ့သည်။ ဟဇရသ် ဇိုင်နဗ် ဗင်န်သေ့ ခိုဇိုင်မဟ် رضي الله عنهم သခင်မကြီး လည်း ကွယ်လွန်သွားခဲ့သည်။

**သက်တော် (၅၇) ဟစ်ဂျရီ (၅) ခုနှစ်တွင်...**

ဒူးမသွလ် ဂျန်ဒွလ်၊ အဟ်ဇားဗ် (ခန်ဒတ်က်)၊ ဗနူ ကိုရိုင်ဇွဟ်၊ ဟဇရသ် အာအေ့ရှာအပေါ် (အိဖ်က်) မဟုတ်မမှန် လုပ်ကြံသမုတ်သည့် ပြဿနာများဖြစ်ပွားခဲ့သည်။ ဟဇရသ် ဇိုင်နဗ် ဗင်န်သေ့ ဂျဟ်ရှ်၊ ဟဇရသ် ဂျိုဝိုက်ရီယဟ် သခင်မကြီးတို့နှင့် ထိမ်းမြားခဲ့သည်။

**သက်တော် (၅၈) ဟစ်ဂျရီ (၆) ခုနှစ်တွင်...**

အိုရိုင်နီယီးန် စစ်ပွဲ၊ ဟိုဒိုင်ဗီယဟ် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုမှုများ ဖြစ်ခဲ့သည်။ ဟဇရသ် အွမ့်မေ့ ဟဘီဘဟ် (ရမ်လဟ်) သခင်မကြီးနှင့် ထိမ်းမြားခဲ့သည်။

**သက်တော် (၅၉) ဟစ်ဂျရီ (၇) ခုနှစ်တွင်...**

ကမ္ဘာအဝှမ်းရှိ ဘုရင်များထံသို့ သဝဏ်လွှာများ ပေးပို့ခဲ့သည်။ ဂါဗဟ်၊ ခိုင်ဗရ်၊ ဝါဒိလ်ကိုရာ၊ ဇားသွရ်ရေ့ကားအ် စစ်ပွဲတို့ဖြစ်ပွားခဲ့သည်။ ကိုယ်တော်မြတ်ကြီး ﷺ အား ဆိတ်သားတွင် အဆိပ်ခတ်ကျွေးရန် ကြိုးပမ်းခဲ့

သည်။ ဟဇရသ် ဆွဖီယဟ် ဗင်န်သေ့ ဟုယိုင်ယ်၊ ဟဇရသ် မိုင်မူနာတို့နှင့် ထိမ်းမြားခဲ့သည်။ (အွမ်ရသွလ် ကသွာ) ဟစ်ဂ်ျရီ (၆)ခုနှစ်တွင် မပြုနိုင်ခဲ့သည့် အိုမရဟ် ပြန်လည်ပြုခဲ့သည်။

**သက်တော် (၆၀) ဟစ်ဂ်ျရီ (၈) ခုနှစ်တွင်...**

မောင်ဝ်သဟ်၊ ဟိုနိုင်းန်၊ သွာအိဖ် စစ်ပွဲများဖြစ်ပွားခဲ့သည်။ မက္ကာဟ်ရွှေမြို့တော်ကိုလည်း သိမ်းပိုက်အောင်နိုင်ခဲ့သည်။ ချစ်နဗီ၏ သမီးတော် ဇိုင်နဗ် သခင်မနှင့် သားတော် အိဗ်ရာဟီးမ် သခင်တို့ ကွယ်လွန်ခဲ့သည်။

**သက်တော် (၆၁) ဟစ်ဂ်ျရီ (၉) ခုနှစ်တွင်...**

သဗူးက် စစ်ပွဲဖြစ်ပွားခဲ့သည်။ ဇေနာကျူးလွန်ခဲ့ကြောင်း ဝန်ခံလာသည့် အမျိုးသမီးအား ခဲပေါက်ပစ်ဒဏ်ပေးရန် အမိန့်တော်ပေးခဲ့သည်။ မြောက်များစွာသော အုပ်စုများ အစ္စလာမ့်အေးရိပ်ဆာယာအောက်တွင် ခိုလှုံရန် ရောက်ရှိလာခဲ့သည်။

**သက်တော် (၆၂) ဟစ်ဂ်ျရီ (၁၀) ခုနှစ်တွင်...**

ဟဂ်ျဂျသွလ် ဝဒါအ် (နောက်ဆုံး နှုတ်ဆက်ဟဂ်ျ) ပြုခဲ့သည်။

**သက်တော် (၆၃) ဟစ်ဂ်ျရီ (၁၁) ခုနှစ်တွင်...**

ဆွဖရ်လ (၂၉)ရက်နေ့တွင် ကွယ်လွန်ရာပါ ရောဂါ စတင်ခဲ့သည်။ ရဗီအွလ် အောက်ဝလ် (၁၂) ရက်၊ တနလ်လာနေ့နံနက် နေတက်ချိန်၌ ကမ္ဘာတခွင်အား တရားလမ်းမှန်၏ အလင်းရောင်ပေးသော နေမင်းကြီး ကွယ်ပျောက်သွားခဲ့သည်။

إنا لله وإنا إليه راجعون

ရဗီအွလ် အောက်ဝလ် (၁၄)ရက်၊ ဗုဒ္ဓဟူးနေ့ ညဥ့်အချိန်တွင်

မိခင်မွန်ကြီးဟာဇရသ် အာအေရှာ သခင်မကြီး၏ အခန်းတွင် မြှုပ်နှံ ခံခဲ့ရသည်။

## ချစ်နဗီ၏ စစ်ပွဲများအကြောင်း

ချစ်နဗီ၏ မှန်ကန်တိကျလှသည့် အတ္ထုပ္ပတ္တိမှ စစ်ပွဲဆိုင်ရာ စာမျက်နှာများအား ပြန်လည် လေ့လာကြည့်သော် ကိုယ်တော်မြတ်ကြီးသည် ဘဝသက်တမ်းတွင် ကိုယ်တော်တိုင် စစ်ပွဲပေါင်း ၂၅ (သို့) ၂၇ ခု ဆင်နွှဲခဲ့ဖူးသည်။ ယင်းအနက်မှ ဗဒ်ရ်၊ အိုဟိုဒ်၊ ခန်ဒက်၊ ဘနူကိုရိုင်ဇွဟ်၊ ဘနူလ်မွတ်စ်သွလက်၊ ခိုင်ဗရ်၊ ဟိုနိုင်းန်၊ သွာအိဖ် (၇) ပွဲတွင် တိုက်ခိုက်မှုလည်း ဖြစ်ပွားခဲ့သည်။

نورالعيون لابن سيد الناس ؛ ص: ٤١/٤٠، تهذيب السيرة النبوية للنووي ؛ ص : ٥٤

ချစ်နဗီ ကိုယ်တော်တိုင်မပါဝင်ပဲ ဆွဟာဗာများအနက်မှ တစ်ဦးဦးအား ခေါင်းဆောင်ခန့်၍ ဆင်နွှဲစေခဲ့သည့် (စရာယာ) စစ်ပွဲပေါင်းသည် အိဗ်နေ့စအဒ်၏ သွဗကားသ် ကျမ်းလာအဆိုအရ (၅၆) ခုဖြစ်သည်။

تهذيب السيرة النبوية للنووي ؛ ص : ٥٥

စစ်မက်ဖြစ်ပွားရာ အကြောင်းခံများအား မျှတစွာ လေ့လာသုံးသပ်ကြည့်သော် ဗဒရ်မှလွဲ၍ ကျန်စစ်ပွဲတိုင်းသည် ခံစစ်သာ ဖြစ်ခဲ့သည်။ အစ္စလာမ့် ရန်သူများကသာ စတင်ကျူးကျော်ခဲ့ကြသည် ဟု စီရသ် ပညာရှင် အများစုက ရေးသားကြပေသည်။

## ချစ်နမီ၏ ဟာဂျ်နှင့် အွမ္မရဟ်အကြောင်း

ကိုယ်တော်မြတ်ကြီး ﷺ သည် သက်တမ်းတွင် (၃) ကြိမ် ဟာဂျ်ပြုခဲ့သည်။ (၂)ကြိမ်မှာ ဟာဂျ် ဖရ်ဇ်မဖြစ်မီအလျှင် ပြုခဲ့ပြီး တတိယအကြိမ်မှာကား ဟာဂျ် ဖရ်ဇ်ဖြစ်ပြီးချိန် ပြုခဲ့သည်။ ၎င်းအား ဟာဂျ်ဂျသွလ်ဝဒါးအ် (နောက်ဆုံး နှုတ်ဆက်ခြင်း ဟာဂျ်) ဟုခေါ်ဆိုသည်။

ဟစ်ဂျ်ရသ်ပြုပြီးနောက်တွင် အွမ္မရဟ်အား (၄)ကြိမ်ပြုခဲ့သည်။ (၃)ကြိမ်သည် ဇွလ်ကအ်ဒဟ်လမြတ်တွင် ပြုခဲ့သည်။ ယင်းတို့မှာ

(၁)ဟိုဒိုင်ဗီယဟ် စစ်ပြေငြိမ်းရေး စာချုပ်ချုပ်ဆိုစဉ် (၂) ကဿွာအွမ္မရဟ်

(၃)ဟိုနိုင်းန်မှရရှိသော သုံ့ပန်းပစ္စည်းများ ဝေငှပြီးချိန် (ဂျေ့အစ်ရ်ရာနဟ်)မှ ပြုသော အွမ္မရဟ်

(၄)နောက်ဆုံးဟာဂျ်နှင့် အတူ ပြုသော အွမ္မရဟ်

نور العيون ص : ٤١، البخاري (١٧٧٨) (١٧٧٩) ومسلم (١٢٥٣) وأبوداود (١٩٩٤) والترمذي

(٨١٥) عن تهذيب السيرة النبوية للنووي ؛ ص : ٥٤

## လမင်းနှင့် ကြယ်စင်များ(သို့) ချစ်နမီနှင့် ကြင်ယာတော်များ

(၁) ကိုယ်တော်မြတ်ကြီး ﷺ သည် ဦးစွာပထမ ဟဇရသ် ခဒီဂျာသခင်မကြီးနှင့် လက်ဆက်ခဲ့သည်။

(၂) ထို့နောက် ဟဇရသ် စောင်ဝ်ဒဟ် ဗင်န်သေ့ ဇမ်အဟ် နှင့် ထိမ်းမြားခဲ့သည်။

(၃) ထို့နောက် ဟဇရသ် အာအေ့ရှာ ဗင်န်သေ့ အဘီဘက်ရ် နှင့် မက္ကာမြို့တော်၌ပင်ဟစ်ဂျ်ရသ် မပြုမီ (၂) နှစ်/(၃) နှစ်အကြာတွင်

နေကာပြုခဲ့သည်။ ထိုအချိန်တွင် သခင်မကြီး၏ သက်တော်မှာ ၆နှစ်/ ၇ နှစ်သာရှိသေးသည်။ မဒီနာရွှေမြို့တော်သို့ ရောက်ချိန် သခင်မကြီး၏ သက်တော် (၉)နှစ်အရွယ်တွင် အခန်းအပ်ခဲ့သည်။ သခင်မကြီး၏ သက်တော် (၁၈) နှစ်အရွယ်တွင် ကိုယ်တော်မြတ်ကြီး ﷺ ကွယ်လွန်ခဲ့သည်။ သခင်မကြီးအပြင် မည်သည့် အပျိုစင်နှင့်မျှ ကိုယ်တော်မြတ်ကြီး ﷺ သည် မထိမ်းမြားခဲ့ပေ။

(၄) ထို့နောက် ဟဇရသ် ဟဖ်စွဟ် ဗင်န်သေ့ အိုမရ် ဗင်န် ခဿွားဗ် နှင့် ထိမ်းမြားခဲ့သည်။

(၅) ထို့နောက် အွမ္မေ့ဟဘီဘဟ် (ရမ်လဟ် ဗင်န်သေ့ အဗီစွဖ် ယာန်)နှင့် ထိမ်းမြားခဲ့သည်။ ဟစ်ဂျ်ရီ (၄၄) ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

(၆) ထို့နောက် ဟဇရသ် အွမ္မေ့စလမဟ် (ဟင်းန်ဒ် ဗင်န်သေ့ အဗီအိုမိုက်ယဟ်) သခင်မကြီးနှင့် ထိမ်းမြားခဲ့သည်။ ဟစ်ဂျ်ရီ (၆၂) နှစ်တွင် ကွယ်လွန်ခဲ့သည်။ မိခင်မွန်များအနက် နောက်ဆုံးမှ ကွယ်လွန်သူ ဖြစ်သည်ဟု စီရသ် ပညာရှင်အချို့က ဆိုကြသည်။ အချို့ကမူ ဟဇရသ် မိုင်မူနဟ် ဟု အဆိုပြုကြသည်။

(၇) ထို့နောက် ဟဇရသ် ဇိုင်နဗ် ဗင်န်သေ့ဂျဟ်ရှ် နှင့် နေကာ ပြုခဲ့သည်။ သခင်မကြီးသည် ကိုယ်တော်မြတ်ကြီး ﷺ နှင့် မောင်နှမ ဝမ်းကွဲလည်း တော်စပ်သည်။ ဟစ်ဂျ်ရီ (၂၀)ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

(၈) ထို့နောက် ဟဇရသ် ဂျို့ဝိုက်ရီယဟ် ဗင်န်သေ့ ဟာရစ်ဆ် နှင့် ထိမ်းမြားခဲ့သည်။ ဗနူလ် မွတ်စ်သွလက် စစ်ပွဲတွင် သုံ့ပန်းအဖြစ်

ရခဲ့ရသည်။ အစကနဦးတွင် သခင်မကြီးအား ဟဇရသ် ဆာဗစ်သ် ဗင်န် ကိုင်စ်က ပိုင်ဆိုင်ခဲ့သည်။ ထို့နောက် ကိုယ်တော်မြတ်ကြီး ﷺ က သူကောင်းပြုလိုက်ပြီး ထိမ်းမြားခဲ့သည်။ ဟစ်ဂျ်ရီ (၅၆)ခုနှစ်တွင် ကွယ်လွန်ခဲ့သည်။

(၉) ထို့နောက် ဟဇရသ် စွဖီယဟ် ဗင်န်သေ့ ဟိုယိုက်ယ် နှင့် ထိမ်းမြားခဲ့သည်။ သခင်မကြီးသည် တမန်တော် ဟာရူးန် ﷺ ၏ မျိုးရိုးမှဖြစ်သည်။ ခိုင်ဗရ် စစ်ပွဲတွင် သုံ့ပန်းအဖြစ် ရခဲ့သည်။ ကိုယ်တော်မြတ်ကြီး ﷺသည် သခင်မကြီးအားသူကောင်းပြုခဲ့သည်။ ယင်း သူကောင်းပြုခြင်းအား မဟရ်အဖြစ် သတ်မှတ်ခဲ့သည်။ ဟစ်ဂျ်ရီ (၅၀)ခုနှစ်တွင် အလ္လာဟ့်အမိန့်တော် ခံယူခဲ့သည်။

(၁၀) ထို့နောက် ဟဇရသ် မိုင်မူနဟ် ဗင်န်သေ့ ဟာရစ်ဆ် နှင့် ထိမ်းမြားခဲ့သည်။ သခင်မကြီးသည် ဟဇရသ် ခါလိဒ်ဗင်န်ဝလီးဒ်နှင့် ဟဇရသ် အိဗ်နေ့အဗ္ဗါးစ် ၏ အဒေါ်တော်စပ်သည်။ ကိုယ်တော်မြတ်ကြီး ﷺ သည် သခင်မကြီးနှင့် နောက်ဆုံးမှ ထိမ်းမြားခဲ့သည်။ ဟစ်ဂျ်ရီ (၅၁) ခုနှစ် အချို့အဆိုများတွင် (၆၆) ခုနှစ်တွင် အလ္လာဟ့်အမိန့်တော်ခံယူခဲ့သည်။

(၁၁) ကိုယ်တော်မြတ်ကြီး ﷺ သည် ဟစ်ဂျ်ရီ (၃)ခုနှစ်တွင် ဟဇရသ် ဇိုင်နဗ် ဗင်န်သေ့ ခိုဇိုင်မဟ်နှင့် ထိမ်းမြားခဲ့သည်။ ကိုယ်တော်မြတ်ကြီးသည် သခင်မကြီးနှင့် ၂လ (သို့) ၃လသာ နေထိုင်ပြီးချိန် သခင်မကြီးသည် ကွယ်လွန်ခဲ့သည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် အေ့စားဖ် (ဟဇရသ် ဒေဟ်ယဟ်

ကလ်ဗီ ၏ အစ်မနှင့် လည်း နေကာဟ် ပြုခဲ့သည်။ ထို့အတူ ဟဇရသ် ခေါင်ဝ်လဟ် ဗင်န်သေ့ ဟိုဇိုင်းလ်နှင့်လည်း လက်ဆက်ခဲ့သည်။ သခင်မ ကြီးသည် မိမိကိုယ်မိမိ ချစ်နဗီအား လက်ဆောင်အဖြစ် ပေးအပ်ခဲ့ သည်။ ထို့အတူ ဟဇရသ် အတ်စ်မား ဗင်န်သေ့ကအ်ဗ်နှင့် နှင့်လည်း ထိမ်းမြားခဲ့သည်။ ထို့နောက် အမ်ရဟ် ဗင်န့်သေ့ယဇီးဒ်နှင့်လည်း လက် ဆက်ခဲ့သည်။ သို့သော် အခန်းမဝင်ရမီအလျှင် ကွာရှင်းခဲ့သည်။ ဖော်ပြပါ ကြင်ယာတော်များအပြင် အခြားသော အမျိုးသမီးများနှင့် လည်း လက်ဆက်ခဲ့ကြောင်း ဟဒီးဆ်ကျမ်းများတွင် လာရှိထားပေသည်။

အေမာမ် နဝဝီ သခင်ကြီးသည် ဟဇရသ် ကသာဒဟ်၏ အဆို တစ်ခုအား ဆင့်ပြန်ထားသည်။ ကိုယ်တော်မြတ်ကြီး ﷺ သည် ကြင်ယာတော် (၁၅) ပါးနှင့် လက်ဆက်ခဲ့သည်။ ကြင်ယာတော် (၁၃) ပါးနှင့် အခန်းဝင်ခဲ့သည်။ ကြင်ယာတော် (၁၁) ပါးအား တစ်ပြိုင်တည်း ထားရှိတော်မူခဲ့သည်။ ကွယ်လွန်ချိန် ကြင်ယာတော် (၉)ပါးအား ထားရှိ ခဲ့သည်။

ချစ်နဗီ၏ ကြင်ယာတော်များအား ပေးခဲ့သော မဟာရ်မှာ ဒေရ်ဟမ် (၅၀၀)သာ ဖြစ်ခဲ့သည်။ သို့သော် ဟဇရသ် ဆွဖီယဟ်နှင့် ဟဇရသ် အွမ္မေ့ဟဘီဘဟ်တို့အား ပေးခဲ့သည့် မဟာရ်မှာ ထိုထက်များခဲ့ သည်။

رضي الله عنهن جميعا

وهذا البحث كله منقول من " نور العيون " لابن سيد الناس ؛ ص : ٨٠، و " تهذيب السيرة النبوية للنووي " ص : ٤٤ ـ ٤٥

မှတ်ချက်။ ။ ကြင်ယာတော်များနှင့် လက်ဆက်ခဲ့ရခြင်း၏ အကျိုးတရား အကြောင်းတရားများနှင့် လျှို့ဝှက်ချက်များ၏ အသေးစိပ်အကျယ်တဝင့်ကို အင်န်ရှာအလ္လာဟ် "လမင်းနှင့် ကြယ်စင်များ" အမည်ရှိ စာအုပ်တွင် ဖော်ပြသွားမည်။ မကြာမီမျှော်. . .

## ကိုယ်တော်မြတ်ကြီး ﷺ ၏ သားတော် သမီးတော်များ နှင့် မြေးတော်များ

ကိုယ်တော်မြတ်ကြီး ﷺ တွင် မှန်ကန်သော အဆိုအရ သားတော် (၃)ပါး၊ သမီးတော် (၄)ပါး ထွန်းကားခဲ့သည်။

(၁) ကာစင်မ် သခင် (၂) အဗ္ဗဒွလ္လာဟ် သခင် (၎င်းအား သွိုယ်ယစ်ဗ် (သို့)သွာဟေ့ရ်ဟု ဂုဏ်ပုဒ်တပ်ကြသည်။ (၃) ဇိုင်နဗ် သခင်မ (၄) ရှုင်ကိုင်ယဟ် သခင်မ (၅) အွမ္မေ့ကွလ်ဆူးမ် (၆) ဟဇရသ် ဖာသွေ့မဟ် သခင်မ (၇) ဟဇရသ် အီဗ်ရာဟီးမ် သခင် (မဒီနာတွင် မွေးဖွားခဲ့သည်။ သက်တော် (၇၀)ရက်၊ အချို့အဆိုများအရ (၇)လ/(၁၈) လ အရွယ်တွင် ကွယ်လွန်ခဲ့သည်။

ဟဇရသ် အိဗ်ရာဟီးမ် အပြင် အခြားသော သားတော်၊ သမီးတော်များမှာ ဟဇရသ် ခဒီဂျာသခင်မကြီးမှ ထွန်းကားခဲ့သည်။ ဟဇရသ် အိဗ်ရာဟီးမ် သခင်သည် ဟဇရသ် မာရိယဟ် သခင်မမှ ထွန်းကားခဲ့သည်။

သားတော်များသည် ငယ်ရွယ်စဉ် ကလေးဘဝတွင် အလ္လာဟ့် အမိန့်တော် ခံယူသွားကြပြီး သမီးတော်များအားလုံးသည် အစ္စလာမ်

သာသနာတော်ကိုပင် လက်ခံခဲ့သည်။

ဟဇရသ် ဖာသွေမဟ်သခင်မကြီးမှအပ အခြားသော သားတော် သမီးတော်များအားလုံးသည် ချစ်နဗီ သက်ရှိထင်ရှားရှိနေစဉ်တွင် ကွယ်လွန်ခဲ့သည်။ ဟဇရသ် ဖာသွေမဟ် သခင်မကြီးသည် ချစ်နဗီ ﷺ ကွယ်လွန်ပြီး (၆)လတွင် ကွယ်လွန်ခဲ့သည်။

ဟဇရသ် ဇိုင်နဗ်သခင်မကြီးသည် အဗွလ် အားစွ် ဗင်န် ရဗီးအ်နှင့် လက်ဆက်ခဲ့သည်။ အလီနှင့် အိုမာမဟ် အမည်ရှိသားတစ်ပါး သမီးတော်တစ်ပါး ထွန်းကားခဲ့သည်။ ဟဇရသ် အိုမာမဟ်သခင်မအား ဦးစွာ ဟဇရသ် အလီသခင်ကြီးသည် ထိမ်းမြားခဲ့သည်။ သခင်ကြီး ကွယ်လွန်ပြီးနောက် ဟဇရသ်မိုဂီရဟ် သခင်က ဆက်လက် ထိမ်းမြားခဲ့သည်။ ဟဇရသ် မိုဂီရဟ်မှ ယဟ်ယာ အမည်ရှိ သားတော်တစ်ပါးအား ဖွားမြင်ခဲ့သည်။

ဟဇရသ်ဖာသွေမဟ် သခင်မကြီးသည် ဟဇရသ် အလီသခင်နှင့် ထိမ်းမြားခဲ့သည်။ ဟဇရသ်ဟစ်၊ ဟဇရသ် ဟိုစိုင်းန်၊ ဟဇရသ် မုဟ်စင်န်၊ ဟဇရသ် ရိုင်ကိုင်ယဟ်၊ ဟဇရသ် ဇိုင်နဗ် ၊ ဟဇရသ် အွမ္မေ့ကွလ်ဆူးမ်၊ رضي الله عنهم တို့အား မွေးဖွားခဲ့သည်။

ဟဇရသ် မုဟ်စင်န်နှင့် ဟဇရသ် ရှိကိုင်ယဟ် တို့သည် ငယ်ရွယ်စဉ်ကပင် ကွယ်လွန်ခဲ့ကြသည်။

ဟဇရသ်ဇိုင်နဗ်သည် ဟဇရသ် အဗ္ဗဒွလ္လာဟ်ဗင်န် ဂျအ်ဖရ် နှင့် လက်ဆက်ခဲ့ပြီး အလီအမည်ရှိ သားတော် တစ်ပါးအား ဖွားမြင်ခဲ့သည်။

ဟဇရသ် အွမ္မေ့ကွလ်ဆူးမ်အား ဟဇရသ် အိုမရ် သခင်ကြီးက

ဦးစွာ ထိမ်းမြားခဲ့ပြီး ဇိုင်ဒ် အမည်ရှိ သားတော်တစ်ပါး ဖွားမြင်ခဲ့သည်။

ဟဇရသ် ရှုကိုင်ယဟ် သခင်မသည် ဟဇရသ် အွတ်ဆ်မားန် နှင့် ထိမ်းမြားခဲ့ပြီး အဗ္ဗဒွလ္လာဟ် အမည်ရှိသားတော်တစ်ပါးအား ဖွားမြင်ခဲ့သည်။ ထို့နောက် သခင်မကြီးသည် (ဗဒရ် စစ်ပွဲတွင် ဟဇရသ် ဇိုင်ဒ် ဗင်န် ဟာရေ့ဆဟ်သခင်က အောင်နိုင်ခြင်းသတင်း ဆောင်ကြဉ်းလာသည့်) နေ့တွင် ကွယ်လွန်ခဲ့သည်။ ထို့နောက် ဟဇရသ် အွဆ်မားန်သည် သခင်မကြီး၏ ညီမတော် ဟဇရသ် အွမ္မေ့ကွလ်ဆူးမ် သခင်မနှင့် လက်ဆက်ခဲ့သည်။ ဟစ်ဂျ်ရီ (၉)ခုနှစ် ရှအ်ဗာန်လတွင် သခင်မကြီးသည် ကွယ်လွန်ခဲ့သည်။

رضي الله عن سائر آل النبي ﷺ

မှတ်ချက် ။ ။ ဟဇရသ် အွမ္မေ့ကူလ်ဆူးမ်သည် ဟဇရသ် အွဆ်မားန် သခင်နှင့် လက်မဆက်ခင် အိုသိုင်ဗဟ် ဗင်န် အဗူလဟဗ် နှင့်လက်ဆက်ခဲ့ဖူးသည် ၊ ဟဇရသ် ရှုကိုင်ယဟ်သည် အွသ်ဗာဟ်နှင့် လက်ဆက်ခဲ့ဖူးသည်။

## ကိုယ်တော်မြတ်ကြီး ﷺ ၏ (ဖခင်ဘက်မှ တော်စပ်သော) ဦးလေးများနှင့် အဒေါ်များ

ဦးလေးများမှာ. . .

(၁) အလ်ဟာရစ်ဆ် (၂) ကိုဆမ် (၃) အဇ်-ဇိုဗိုင်းရ် (၄) ဟမ်ဇဟ်
(၅) အဗ္ဗါးစ် (၆) အဗူသွာလိဗ် (အဗ်ဒို့မနားဖ်) (၇) အဗူလဟဗ် (အဗ်ဒွလ်အွဇ္ဇာ) (၈) အဗ္ဗဒွလ် ကအ်ဗဟ် (၉) ဟဂျ်လ် (အလ် မို့ဂီးရဟ်)

(၁၀) သေွ့ရား၏ (၁၁) အလ်ဂိုက်ဒါးက် တို့ဖြစ်ပြီး
အဒေါ်များမှာ. . .
(၁) ဆွဖိယဟ် (၂) အာသေ့ကဟ် (၃) အရ်ဝါ (၄) အိုမိုင်မဟ်
(၅) ဘရ်ရဟ် (၆) အွမ္မေ့ဟကီးမ် (အလ်ဘိုင်သွား)
မှတ်ချက်။ ။ (၁) ၎င်းတို့အနက် ဟဇရသ် ဟမ်ဇား၊ ဟဇ်ရသ် အဗ္ဗါးစ်နှင့် ဟဇရသ် ဆွဖိယဟ်တို့သည် အစ္စလာမ်သာသနာတော် လက်ခံခဲ့ကြောင်း သိရသည်။ رضي الله عنهم

(၂) အလ်ဟာရစ်ဆ်သည် အကြီးဆုံးသားဖြစ်သည်။ ထို့ကြောင့် ၎င်းတို့၏ ဖခင် အဗ္ဗဒွလ် မွသ်ွလစ်ဗ်အား အဗွလ် ဟာရစ်ဆ် ဟု ဘွဲ့သညာတပ်၍ခေါ်ကြသည်။ ဟဇရသ် ဟမ်ဇဟ်သည် အငယ်ဆုံးဖြစ်သည်။ ကိုယ်တော်မြတ်ကြီးနှင့် နို့စို့ဖက်လည်း ဖြစ်သည်။ ဟဇရသ် အဗ္ဗါးစ်သည် ချစ်နဗီထက် (၃)နှစ်ကြီးသည်။

(၃) အေ့မားမ် စိုဟိုင်လီ၏ အဆိုတစ်ခုအရ ချစ်နဗီ၏ ဖခင် အဗ္ဗဒွလ္လာဟ်၊ အဗူသွာလိဗ်နှင့် ဇိုဗိုင်းရ်တို့၏ မိခင်သည် တစ်ဦးတည်း ဖြစ်သည်။ ယင်း၏ အမည်မှာ ဖာသေွမဟ် ဗင်န်သေ့ အမ်ရ် ဗင်န် အာအိဇ် ဖြစ်သည်။

هذا البحث مقتطف من (( تهذيب السيرة النبوية للنووي )) ص : ٤٢- ٤٣، و ((نور العيون )) ص : ٨٥ - ٨٦، و ((تهذيب سيرة ابن هشام )) ص: ٣١، و (( الروض الأنف )) ج : ١، ص : ٢٧٤

# ကိုယ်တော်မြတ်ကြီး ﷺ ၏ ကျွန်များ

**အမျိုးသားများ**

(၁) ဇိုင်ဒ် ဗင်န်ဟာရေ့ဆတ် (၂) အိုစားမဟ် ဗင်န် ဇိုင်ဒ်
(၃) ဆောင်ဗားန် ဗင်န် ဘွဂ်ျဒွဒ် (၄) အဗူကဗ်ရှဟ် (စိုလိုင်းမ်) ဗဒရ်
စစ်ပွဲတွင် ပါဝင်ဆင်နွှဲခဲ့သည်။ ဟဇရသ် အိုမရ် ခလီဖာ ဖြစ်သည့်နေ့တွင်
ကွယ်လွန်ခဲ့သည်။ (၅) အနစဟ် (၆)ရှုက်ရားန် (စွာလေ့ဟ်)
(၇) ရဘားဟ်နူဗီ (၈) ယစားရ် နူဗီ (၎င်းအား အိုရိုင်နဟ်သားများက
ရက်စက်စွာ သတ်ဖြတ်ခဲ့ကြသည်။) (၉) အဗူရာဖေ့အ် (အတ်စ်လမ်)
ဟဇရသ် အဗ္ဗါးစ်သခင်က ချစ်နဗီ ﷺ အား လက်ဆောင်ပေးခဲ့သည်။
ဟဇရသ် အဗ္ဗါးစ်သခင်အစ္စလာမ်လက်ခံသည့် သတင်းကောင်းပေး
သောအခါ သူကောင်းပြုလိုက်သည်။ ထို့နောက် ချစ်နဗီ၏ သူကောင်းပြု
ခံရသည့် ကျွန်မ စလ်မာ နှင့် ထိမ်းမြားပေးခဲ့ရာ အိုဗိုင်ဒွလ္လာဟ် အမည်ရှိ
သားတော် တစ်ပါးဖွားမြင်ခဲ့သည်။ နောက်ပိုင်းဟဇရသ် အလီထံတွင်
စာရေးသူအဖြစ်လည်း ခန့်အပ်ခံခဲ့ရသည်။ (၁၀) အဗူမိုဝိုက်ဟော့ဗဟ်
(၁၁) ဖဿွာလဟ် (ဆီးရီးယားနိုင်ငံတွင် ကွယ်လွန် သွားခဲ့သည်။)
(၁၂) ရာဖေ့အ် (၁၃) မစ်ဒ်အမ် (ရေ့ဖာအဟ် ဂျိုဇာမီ သခင်က လက်
ဆောင်ပေးခဲ့သည်။ ဝါဒီလ်ကိုရာတွင် ရှဟီးဒ် ပြုခံခဲ့ရသည်။)
(၁၄) ကရ်ကရဟ် (သို့) ကိရ်ကေ့ရဟ် နူဗီ (ဟောင်ဇဟ် ဗင်န်အလီ
သခင်က လက်ဆောင်ပေးခဲ့သည်။) (၁၅) ဇိုင်ဒ် (ဘော့လားလ် ဗင်န်
ယစားရ်၏ အဖိုး) (၁၆) အိုဗိုင်းဒ် ဗင်န် ဂဖ်ဖါးရ် ၏ (၁၇) သွဟ်မားန်
(၁၈) မအ်ဗူးရ် အလ်ကိဗ်သို (မိုကောက်ကစ်စ် ဘုရင်၏ လက်ဆောင်)

(၁၉) ဝါကိဒ်(သို့) အဗူဝါကိဒ် (၂၀) ဟေရှားမ်(အဗူဒါဝူးဒ် ကျမ်းတွင် သခင်ကြီးဆင့်ပြန်ထားသည် ဟဒီးဆ်ရှိသည်။) (၂၁) အဗူသွမ်ရဟ် (၂၂) အဗူအရှိုးဗ် (အဟ်မရ်) (၂၃) အဗူအိုဗိုင်းဒ် (၂၄) စဖီနဟ် (ရဗါးဟ်/မဟ်ရားန်) (ဟဇ္ဇသ် အွမ္မေ့စလမဟ်၏ ကျွန်၊ ချစ်နဗီအား ဝတ်ကြီးဝတ်ငယ်ပြုရမည်ဟူသည့် စည်းကမ်းချက်ဖြင့် သခင်မကြီးက ၎င်းအား သူကောင်းပြုခဲ့သည်။ ထိုအခါ ၎င်းက "အသင်မ စည်းကမ်း မသတ်မှတ်လျှင်လည်း ကျွန်ုပ် ကိုယ်တော်မြတ်ကြီး ﷺ အား စွန့်ခွာမည် မဟုတ်ပေ" ဟု ပြောခဲ့သည်။) (၂၅) အဗူဟင်န်ဒ် (၂၆) အန်ဂျရှဟ် (အသံကောင်းသောသူဖြစ်သည်) (၂၇) အဗူလိုဗာဗဟ် တို့ဖြစ်ကြသည်။ ဟာဖစ်ဇ် မိုဂလ်သွာယ သခင်ကြီးသည် မိမိ၏ الإشـارة (အညွှန်းကျမ်း) တွင် ဤထက်ပို၍ ကျွန်တော်ပေါင်း (၂၇)ပါး၏ အမည်အား ဖော်ပြထား ပေသေးသည်။

**အမျိုးသမီးများ**

(၁) စလ်မာ (အွမ္မေ့ရာဖေ့အ်) (၂) ဘရကဟ် (အွမ္မေ့အိုင်မန်) (ချစ်နဗီ ၏ ဝမ်းဆွဲမိခင်၊ ဖခင်ထံမှ အမွေအဖြစ်ရရှိခဲ့သည်။ ချစ်နဗီသည် သခင်မ ကြီးအား အလွန်ဂုဏ်ပေးလေးစား လေ့ရှိသည်။) (၃) မာရိယဟ် (၄) ရိုင်ဟာနဟ် (ဗနူကိုရိုင်ဇွဟ်မှ သုံ့ပန်းအဖြစ်ရရှိခဲ့သည်။) (၅) မိုင်မူနဟ် ဗင်န်သေ့စအ်ဒ် (၆) ခသွ်ရဟ် (၇) ရသွ်ဝါ
رضي الله عنهم أجمعين .

نور العيون ؛ ص : ٨٧ ـ ٩٥ ، تهذيب السيرة النبوية للنووي ص : ٤٦ ـ ٤٩

## ဝတ်ကြီးဝတ်ငယ်ပြုသူများ

(၁) အနတ်စ် ဗင်န်မာလိက်   (၂) ဟင်န်ဒ်   (၃) အတ်စ်မား
(ဟာရိဆ်၏ သားတော်နှစ်ပါး အတ်စ်လမ် မျိုးနွယ်မှ ဖြစ်သည်။)
(၄) ရဗီအဟ် ဗင်န် ကအ်ဗ် အလ်အတ်စ်လမီ (၅) အဗ္ဗဒ္ဒလ္လာဟ် ဗင်န် မတ်စ်အူးဒ် (ကိုယ်တော်မြတ်ကြီး ﷺ ၏ ဖိနပ်တော်အား ဝတ်ဆင်ပေးခဲ့သည်။ ချွတ်တော်မူသောအခါ မိမိ၏ လက်တွင် စွပ်ထားတော်မူသည်။)
(၆) အွက်ဗဟ်ဗင်န် အာမိရ် အလ်ဂျို့ဟနီ (ကိုယ်တော်မြတ်ကြီး ﷺ ၏ လားတော်အား ခရီးတွင် မောင်းနှင်သူဖြစ်သည်။) (၇) ဗေးလာလ် ဗင်န် ရဗားဟ်  (၈) စအ်ဒ် (ဟဇရသ် အဗူဗက်ရ် သခင်၏ သူကောင်းပြုခြင်း ခံရသော ကျွန်) (၉) ဇူမိခ်မရ်  (၁၀) ဗုကိုင်းရ် ဗင်န် ရှဒ္ဒါးဒ်
(၁၁) အဗူဇရ် (အလ်ဂေဖားရီ) (၁၂) အတ်စ်လအ် ဗင်န် ရှရီးက်
(၁၃) မိုဟာဂျိရ် (၁၄) အဗ္ဗတ်စ္စမ်ဟ် တို့ဖြစ်ကြသည်။

رضي الله عنهم أجمعين

نور العيون ؛ ص : ٩٦، تهذيب السيرة النبوية ؛ ص : ٤٩

## ကိုယ်တော်မြတ်ကြီး ﷺ ၏ အပါးတွင် လုံခြုံရေး တာဝန်ယူခဲ့သူများ

(၁) စအ်ဒ် ဗင်န် မို့အားဇ် (ဗဒရ်စစ်ပွဲ နေ့တွင်) (၂) ဇက္ကဝါးန် ဗင်န် အဗ္ဗဒို့ ကိုင်းစ် (၃) မိုဟမ္မဒ် ဗင်န် မတ်စ်လမဟ် (အိုဟို့ဒ် စစ်ပွဲနေ့တွင်)
(၃) ဇိုဗိုင်းရ် (ခန်ဒပ်က် စစ်ပွဲနေ့တွင်)  (၄) အဗ္ဗါးဒ် ဗင်န် ဗစ်ရှ်ရ်
(၅) စအ်ဒ် ဗင်န် အဗီဝက္ကားဆ် (၆) အဗူအိုင်ယူးဗ် အန်ဆွာရီ (ခိုင်ဗရ်

နေ့တွင်) (၇) ဘော့လားလ် (ဝါဒိလ် ကိုရာနေ့တွင် ) အသီးသီး တာဝန်ယူခဲ့ကြသည်။

رضي الله عنهم أجمعين

﴿ والله يعصمك من الناس ﴾ အလ္လာဟ် အရှင်မြတ်သည် (အသင်ကိုယ်တော်မြတ်ကြီးအား လူတို့၏ (ဘေးရန်ခပ်သိမ်းနှင့် ၎င်းတို့၏ အန္တရာယ်ရန်စွယ်) မှ ထိန်းသိမ်းစောင့်ရှောက်တော်မူမည်။) ဟူသည့် အာယသ်တော် ကျရောက်ပြီးနောက် ချစ်နဗီသည် မိမိအပါးတွင် လုံခြုံရေး၊ စောင့်ရှောက်ရေးချခြင်းအား ရပ်စဲလိုက်သည်။

نور العيون ؛ ص : ٩٧

## ကိုယ်တော်မြတ်ကြီး ﷺ ၏ သံတမန်များ

(၁) ဟဇရသ် အမ်ရ် ဗင်န် အိုမိုင်ယဟ် ؓ သည် အီသီယိုးပီးယား ဘုရင် နဂျာရှီ ထံသို့ ချစ်နဗီ၏ သဝဏ်လွှာပေးပို့ခဲ့သည်။ (နဂျာရှီ ဟူသည် အီသီယိုးပီးယား ဘုရင်ခံတိုင်း၏ ဘွဲ့ဖြစ်သည်။) ၎င်း၏ အမည်မှာ အတ်စ္စ်ဟမဟ် ဖြစ်သည်။ နဂျာရှီသည် ကိုယ်တော်မြတ်ကြီး ﷺ ၏ သဝဏ်လွှာအား မိမိ၏ မျက်လုံးအစုံပေါ်တွင် ထားခဲ့သည်။ ထို့နောက် ပလ္လင်ပေါ်မှ ဆင်းသက်ခဲ့ပြီး မြေပေါ်တွင်ထိုင်ကာ အစ္စလာမ် သာသနာတော်အား ကြည်ဖြူစွာ လက်ခံခဲ့သည်။ ဟစ်ဂျ်ရီ (၉)ခုနှစ် ကိုယ်တော်မြတ်ကြီး သက်ရှိထင်ရှားရှိနေစဉ်တွင်ပင် ကွယ်လွန်ခဲ့သည်။ ဗိုခါရီကျမ်း၏ ဆင့်ပြန်ချက်အရ ချစ်နဗီသည် ၎င်း၏ ဂျနာဇာနမားဇ် ကိုလည်း ဖတ်ပေးခဲ့သည်။ البخاري (١٢٤٥) مسلم (٩٥١)

(၂) ဟဇရသ် ဒေ့ဟ်ယဟ် ဗင်န် ခလီဖာ ကလ်ဗီ ؓ သခင် အား ရောမဘုရင် ကိုင်ဆွရ်ထံ စေလွှတ်ခဲ့သည်။ (ရောမနိုင်ငံ၏ ဘုရင်ခံ တိုင်း၏ဘွဲ့သည် ကိုင်ဆွရ် ဖြစ်သည်။) ၎င်း၏ အမည်မှာ ဟေရတ်က်လ် ဖြစ်သည်။ ၎င်းသည် ကိုယ်တော်မြတ်ကြီး ﷺ နဗီဖြစ်ကြောင်းအား လက်ခံခဲ့သည်။ အစ္စလာမ်သာသနာတော် လက်ခံရန် ဆန္ဒပြုခဲ့သေး သည်။ သို့သော် ရောမနိုင်ငံသားတို့သည် သဘောမတူကြချေ။ ထို့ ကြောင့် အုပ်ချုပ်မှုအာဏာအား ပပျောက်သွားမည်ကို စိုးရိမ်ပြီး အစ္စလာမ် သာသနာတော်အား စွန့်လွှတ်ခဲ့သည်။

(၃) ဟဇရသ် အဗ္ဗဒွလ္လာဟ် ဗင်န် ဟိုဇာဖဟ် စဟ်မီ ؓ သခင် သည် အီရန်ဘုရင် ကစ္စရာထံ သွားခဲ့သည်။ (အီရန်နိုင်ငံ၏ ဘုရင်များ အား ကစ္စရာ ဟု ခေါ်ကြသည်။ ၎င်း၏ အမည်မှာ ပရ်ဝေးဇ် ဖြစ်သည်။) ထိုသူယုတ်မာသည် ချစ်နဗီ၏ သဝဏ်လွှာအား ဆွဲစုတ်ခဲ့သည်။ ကိုယ် တော်မြတ်ကြီး ﷺ ကလည်း "အလ္လာဟ် ၎င်း၏ တိုင်းပြည်အား အစိတ်စိတ်အမွှာအမွှာ ပြုပစ်တော်မူပါ" ဟု ဒိုအာပြုခဲ့သည်။ (၎င်း အတိုင်းပင် ရက်အနည်းငယ်တွင် ဖြစ်သွားခဲ့သည်။)

(၄) ဟဇရသ် ဟာသွစ်ဗ် ဗင်န် အဗီဗလ်သအဟ် သခင်သည် "မိုကောင်ဝ် ကစ်(စ်)" ဘုရင်ထံ ချစ်နဗီ၏ သဝဏ်လွှာအား ယူဆောင် သွားခဲ့သည်။ ထိုအခါ ဘုရင်က ကိုယ်တော်မြတ်ကြီး ﷺ အတွက် မာရီယဟ် သခင်မ ၊ ရှီရီးန် သခင်မ၊ ဒွလ်ဒွလ် အမည်ရှိ လားတစ် ကောင်၊ အချို့အဆိုများတွင် ရွှေဒင်္ဂါး(၁၀၀၀)၊ ပိုးထည်ဝတ်စုံ (၂၀) တို့အား လက်ဆောင်အဖြစ်ပေးပို့ခဲ့ပေသည်။

(၅)ဟဇရသ် အမ်ရ်ဗင်န်အာဆွိ သခင်အား အိုမန် နိုင်ငံ၏ ဘုရင်ခံနှစ်ပါး ဖြစ်သူ ဂျိုလန်ဒါ၏ သားတော်နှစ်ပါး ဂျိုင်ဖရ်နှင့် အဗ်ဒ် တို့ထံ စေလွှတ်ခဲ့သည်။ ၎င်းတို့နှစ်ဦးလုံးသည် အစ္စလာမ်သာသနာ လက်ခံခဲ့သည်။

(၆) ဟဇရသ် စိုလိုင်းသွ် ဗင်န် အမ်ရ် အာမေ့ရီ ؓ သည် ယမာမဟ် ဘုရင်ခံ ဟောင်ဝ်ဇဟ် ဗင်န် အလီထံသို့ သွားခဲ့သည်။ ချစ်နဗီ၏ သံတမန်အား ဂုဏ်ပေးလေးစားခဲ့သည်။ ထို့နောက် ကိုယ်တော်မြတ်ကြီး ﷺ ထံ "အသင်ဖိတ်ခေါ်သော အရာသည် အလွန်ကောင်းမွန်လှပကြောင်း၊ ကျွန်ုပ်သည် မိမိအုပ်စုတွင် တရားဟောဆရာ၊ ကဗျာဆရာဖြစ်သောကြောင့် ကျွန်ုပ်အဖို့ အချို့သော ကဏ္ဍများသတ်မှတ်ပေးရန်" စာလွှာပါးလိုက်လေသည်။ ထိုအခါ ကိုယ်တော်မြတ်ကြီး ﷺ က ငြင်းပယ်လိုက်လေသည်။ ထို့ကြောင့် ဟောင်ဝ်ဇဟ် သည် အစ္စလာမ်သာသနာတော်အား လက်မခံခဲ့ပေ။

(၇) ဟဇရသ် ရှိုဂျားအ် ဗင်န် ဝဟ်ဗ် အလ်အဆဒီ ؓ သခင်သည် ဆီရီးယားနိုင်ငံ ပလ်ကားပြည်နယ်ရှိ ဘုရင်ခံ ဟာရစ်ဆ် ဗင်န် အဗီရှမိရ် ဂတ်စ္စာနီ ထံသို့ ချစ်နဗီ၏ စာချွန်လွှာအား ပေးပို့ခဲ့သည်။ ထိုဘုရင်ခံက စာချွန်လွှာအား အဝေးသို့ ပစ်လိုက်ပြီး၊ ချစ်နဗီထံ သွားမည်ဟု ကြုံးဝါးလေရာ ကိုင်ဆွရ်သည် ၎င်းအား တားမြစ်ခဲ့သည်။

(၈) ဟဇရသ် မိုဟာဂျိရ် ဗင်န် အဗီအိုမိုက်ယဟ် မခ်ဇူမီ ؓ သခင်သည် ယီမင်ဘုရင် ဟာရစ်ဆ် ဟင်မ်ယရီ ထံသို့ သွားခဲ့သည်။

(၉) ဟဇရသ် အလားအ် ဗင်န် ဟဇ္ဇရမီ ؓ သခင်သည်

ဘာရိန်းဘုရင် မွန်ဇိရ် ဗင်န် စာဝါ ထံသို့ ချစ်နဗီ ﷺ ၏ စာချွန်တော် အား ပေးပို့ခဲ့သည်။ ထိုအခါ ဘုရင်သည် အစ္စလာမ်သာသနာတော်ကို လက်ခံခဲ့သည်။

(၁၀+၁၁) ဟဇရသ်အဗူမူစာအရှ်အရီ နှင့် ဟဇရသ် မိုအားဇ် ဗင်န် ဂျဗလ် رضي الله عنهما တို့သည် ယီမင်နိုင်ငံတစ်ခုလုံးအတွက် သွား ရောက်ခဲ့သည်။ တိုင်းသူပြည်သားအားလုံး ဘုရင်မှစ၍ လက်အောက် ငယ်သားများပါ စစ်မဖြစ်ပဲ အစ္စလာမ်သာသနာတော်ကို လက်ခံခဲ့ကြပေ သည်။ نور العيون ؛ ص : ٩٨ ـ ١٠١ ، تهذيب السيرة النبوية للنووي ؛ ص : ٥١ ـ ٥٣

## ချစ်နဗီ ﷺ အပါးတော်တွင် ဝဟီနှင့် အခြားသော စာလွှာများ ရေးခွင့် ရရှိခဲ့သူများ

ဟာဖိဇ် မိုဂလ်သွာယ သည် မိမိ၏ الإشـــــارة (အညွှန်းကျမ်း) တွင် “ဝဟီနှင့် အခြားသော စာလွှာများရေးသားခွင့်ရခဲ့သော ဆွဟာဗဟ် အရေအတွက်မှာ (၄၂)ပါးဖြစ်သည်” ဟု ဖော်ပြထားသည်။ သို့သော် ဟာဖိဇ် အဗွလ် ကာစင်မ် သည် မိမိ၏ تـــاريخ دمشـق (ဆီးရီးယားနိုင်ငံ သမိုင်း) စာအုပ်တွင် (၂၃)ပါးကိုသာ ဖော်ပြထားပေသည်။

၎င်းတို့မှာ (၁) အဗူဗက်ရ် (၂) အိုမရ် (၃) အွတ်ဆ်မာန် (၄) အလီ (၅) သွလ်ဟာ (၆) ဇိုဗိုင်းရ် (၇) အိုဗိုင်ယ် ဗင်န် ကအဗ် (၈) ဇိုင်ဒ် ဗင်န် ဆာဗိသ် (၉) မိုအာဝေယဟ် ဗင်န်အဗီဆွတ်ဖ်ယာန် (၁၀) မိုဟမ္မဒ် ဗင်န် မတ်စ်လမဟ် (၁၁) အရ်ကမ်ဗင်န်အဘိလ် အရ်ကမ် (၁၂) အဗာန် ဗင်န် စအီးဒ် (၁၃) ခါလိဒ်ဗင်န် စအီးဒ် (၁၄) ဆာဗိသ် ဗင်န်

ကိုင်စ် (၁၅) ဟန်ဇွလဟ်ဗင်န် ရဗီးအ်(၁၆) ခါလိဒ်ဗင်န်ဝလီးဒ် (၁၇) အဗ္ဗဒွလ္လာဟ်ဗင်န်အရ်ကမ် (၁၈) အဗ္ဗဒွလ္လာဟ် ဗင်န် ဇိုင်ဒ် ဗင်န် အဗ်ဒေ့ရဗ္ဗိဟီ (၁၉) အလားအ် ဗင်န် အွက်ဗဟ် (၂၀) မိုဂီးရဟ် ဗင်န် ရှုအ်ဗဟ် (၂၁) စိဂျိလ် (၂၂) ရှုရဟ်ဗီးလ် ဗင်န် ဟစနဟ် (၂၃) အာမိရ် ဗင်န် ဖိုဟိုင်းရဟ် တို့ဖြစ်ကြသည်။

رضي الله عنهم أجمعين

မှတ်ချက် ။ ။ စိဂျစ်လ် သခင်နှင့် ပတ်သက်၍ ပညာရှင်များကြားတွင် အကွဲအလွဲရှိသည်။ تهذيب السيرة النبوية للنووي ؛ ص: ٥٠، نور العيون ؛ ص: ١٠١- ١٠٢

## ချစ်နဗီခန့်အပ်ခဲ့သည့် ရှေ့ဆောင်အေမာမ်များ

ချစ်နဗီခန့်အပ်ခဲ့သည့် ရှေ့ဆောင်အေမာမ်များအား အလ္လာမဟ် ရှိဗ်လီသခင်၏ လေ့လာချက်အရ စီရသ် ပညာရှင်များသည် တစ်စုတည်း ဖော်ပြထားခြင်းမရှိချေ။ သို့သော်လည်း သခင်ကြီးသည် မိမိပြုစုခဲ့သော سيـــرة الـنبـي ကျမ်းတွင် အချို့၏ အမည်များအား ဖော်ကျူးထားလေသည်။ ၎င်းတို့မှာ. . .

(၁) မွတ်စ်အဗ်ဗင်န်အိုမိုင်းရ် (မဒီနာတွင်) (၂) စာလင်မ် မောင်လာ အဗူဟိုဇိုင်ဖဟ် (၃) အဗ္ဗဒွလ္လာဟ်ဗင်န်အွမ္မေ့မက်သူးမ် (၄) အဗူဗက်ရ် (၅) အိသ်ဗားန် ဗင်န်မာလိက် (၆) မိုးအားဇ် ဗင်န်ဂျဗလ်

(၇) မတ်စ်ဂျေ့ဒ္ဒေ့ကိုဗာ တွင် ဆွဟာဗီတစ်ပါး (၈) အမ်ရ် ဗင်န်စလမဟ် (၉) အိုစိုက်ဒ် ဗင်န် ဟိုဇိုင်းရ် (၁၀) အနတ်စ်ဗင်န်မာလိက် (၁၁) မာလိက်ဗင်န် ဟိုဝိုက်ရိဆ် (၁၂) အသ်သါးဗ် ဗင်န် အစီးဒ် (၁၂)

အွတ်ဆ်မားန် ဗင်န် အဗိလ်အားစွ် (၁၃) အဗူဇိုင်းဒ် အန်ဆွာရီ တို့ဖြစ်ကြသည်။

رضي الله عنهم أجمعين

سيرة النبي ﷺ للعلامة الشبلي النعماني ؛ ج :٢ ، ص : ٤٠٢

## ကိုယ်တော်မြတ်ကြီး ﷺ ၏ မှီအပ်ဇင်န်များ

(၁) ဟဇရသ် ဗေလားလ် (၂) ဟဇရသ် အိဗ်နေ့ အွမ္မေ့မက်သူးမ် (နှစ်ပါးလုံးသည် မဒီနာရွှေမြို့တော်တွင်) (၃) ဟဇရသ် အဗူမဟ်ဇူးရဟ် (မက္ကာဟ်တွင် ) (၄)ဟဇရသ် စအ်ဒ် အလ် ကိုရသ္ဇ် (ကိုဗာတွင် )

رضي الله عنهم أجمعين

تهذيب السيرة النبوية للنووي ؛ ص : ٥٣، سيرة النبي ﷺ للعلامة النعماني ؛ ج : ٢ ِ ص : ٤٠٢

## တစ်ကြိမ်တည်းတွင် ဂျန္နသ်၏ သတင်းကောင်းပေးခြင်းခံရသော ဆွဟာဗာများ

ထိုင်ဝိုင်းတစ်ခုတည်းတွင် ဂျန္နသ်၏ သတင်းကောင်းပေးခြင်းခံရသည့် ဆွဟာဗာဟ်များ ( العشرة المبشرة بالجنة )သည် (၁၀) ပါးရှိသည်။

(၁) အဗူဗက်ရ် (၂) အိုမရ် (၃) အွတ်ဆ်မားန် (၄) အလီ (၅) ဇိုင်ဗိုင်းရ် ဗင်န် အောက်ဝါးမ် (၆) စအ်ဒ် ဗင်န် အဗီဝက္ကါးစ့် (၇) အဗ္ဗဒွရ် ရဟ်မားန် ဗင်န် အောင်ဝ်ဖ် (၈) သွလ်ဟဟ် ဗင်န် အိုဗိုင်ဒစ်လ္လာဟ် (၉) အဗူ အိုဗိုင်ဒဟ် (အာမိရ်) ဗင်န် ဂျရ်ရားဟ် (၁၀) စအီးဒ် ဗင်န် ဇိုင်းဒ် တို့ဖြစ်

ကြသည်။

رضي الله عنهم جمعيا

نورالعيون ؛ ص : ١٠٣

## ကိုယ်တော်မြတ်ကြီး ﷺ ၏ထံပါးတွင် ကဗျာရွတ်ဆိုခဲ့သည့် ဆွဟာဗာများ

ကာဖိရ်တို့ဘက်မှ ချစ်နဗီပေါ် ထိုးနှက်လာသောကဗျာများအား ကဗျာဖြင့် ပြန်လည် တုံ့ပြန်သည့် ဆွဟာဗီ အချို့ရှိခဲ့သည်။

ငင်းတို့အနက် အကျော်ကြားဆုံးမှာ (၄) ပါးဖြစ်သည်။

(၁) ဟစ္စာန် ဗင်န် ဆာဗိသ် (၂) ကအ်ဗ် ဗင်န် မာလိက်

(၃) ကအ်ဗ် ဗင်န် ဇုဟိုင်းရ် (၄) အဗ္ဗဒွလ္လာဟ် ဗင်န် ရဝါဟတ်

رضي الله عنهم أجمعين

شعراء الرسول ﷺ للدكتور سعيد الرحمن الأعظمي

## ကိုယ်တော်မြတ်ကြီး ﷺ ၏ အစီးအနင်းများ

### မြင်းများ

အိဗ်နေ့ စိုက်ယေ့ဒင်န် နားစ် သခင်၏ အဆိုအရ ကိုယ်တော်မြတ်ကြီး ﷺ ၏ မြင်းများသည် (၁၀) ကောင်ရှိသည်။ အချို့အဆိုများတွင် ဤထက်များ၍၊ အချို့အဆိုများတွင်မူ ဤထက်နည်းသည်။ ၎င်းတို့မှာ. . .

(၁) အတ်-စက်ဗ် ဦးစွာပထမပိုင်ဆိုင်ခဲ့သော မြင်းလည်းဖြစ်သည်။

ဤမြင်းပေါ်တွင် ချစ်နဗီသည် ပထမဆုံးစစ်ပွဲအား ဆင်နွှဲခဲ့သည်။ အိုဟိုဒ်နေ့တွင် ဤမြင်းအား စီးနင်းခဲ့သည်။

(၂) အလ် မုရ်သဂျိဇ် (ဟဇရသ် ခိုဇိုင်မဟ်သခင် သက်သေခံပေးသော မြင်း)

(၃) လေ့ဇားဇ် (မိုကောက်ဝ်ကစ် ပေးလိုက်သော လက်ဆောင်)

(၄) လဟီးဖ် (ရဗီအဟ် ဗင်န် အဗိလ်ဗရားအ် ပေးခဲ့သော လက်ဆောင်)

(၅) ဇွရစ်ဗ် (ဖရ်ဝဟ် ဂျို့ဇာမီသခင် ပေးခဲ့သော လက်ဆောင်)

(၆) အလ် ဝရ်ဒ် (သမီးမ် ဒါရီ သခင်ပေးခဲ့သော လက်ဆောင်)

(၇) အဒ် ဒွရ်စ် (မှန်ကန်သော အဆိုအရ ဤသည် စက်ဗ် ၏ နာမည် ဟောင်းဖြစ်သည် ။)

(၈) မိုလာဝိဟ် (မှန်ကန်သော အဆိုအရ ဤသည် ဟဇရသ် ခိုဇိုင်မဟ် သခင်သက်သေခံပေးသော မုရ်သဂျိဇ်၏ အမည်ဟောင်းသာ ဖြစ်သည်။)

(၉) စဗ်ဟဟ် (အပြေးပြိုင်ရာတွင် အားလုံးအား ကျော်တက်ခဲ့သော မြင်းဖြစ်သည်။ ကိုယ်တော်မြတ်ကြီး ﷺ သည် ဤမြင်းအား ကြည့်၍ ပျော်ရွှင်ဝမ်းမြောက်တော်မူခဲ့သည်။

## လားနှင့် မြည်း များ

ကိုယ်တော်မြတ်ကြီး ﷺ ထံတွင် လား(၃) ကောင်ရှိသည်။

(၁) ဒွလ်ဒွလ် (မိုကောက်ဝ်ကစ် ပေးသော လက်ဆောင်)

(၂) ဖစ်သ္ဒ် သွဟ် (ဟဇရသ် အဗူဗက်ရ်ထံမှ လက်ဆောင်အဖြစ် ရယူခဲ့ သော လား)

(၃) အလ် အိုင်လီယဟ် (အိုင်လဟ် ဘုရင်ပေးသော လက်ဆောင်)

ကိုယ်တော်မြတ်ကြီး ﷺ ထံတွင် ယအ်ဖူးရ် အမည်ရှိ မြည်းတစ်ကောင် ရှိကြောင်း သိရသည်။ ကိုယ်တော်မြတ်ကြီး ﷺ သည် နွားမွေးမြူခြင်း မပြုခဲ့ချေ။

## ကုလားအုတ်များ

တောထဲတွင် ကိုယ်တော်မြတ်ကြီး ﷺ ၏ နို့စား ကုလားအုတ် (၂၀) ရှိသည်။

ဟာဇရသ် စအ်ဒ် ဗင်န် အိုဗာဒဟ် သည် မိုဟ်ရီယဟ် အမည်ရှိ ကုလားအုတ်အား ပေးပို့ခဲ့သည်။

ဟစ်ဂျ်ရသ်ပြုရာတွင် စီးနင်းခဲ့သည့် ကုလားအုတ်လည်း ရှိသေးသည်။ ၎င်း၏ အမည်မှာ ကစ္စ်ဝါးအ် ဖြစ်သည်။ အချို့အဆိုများတွင် ၎င်း၏အမည်မှာ အသ္ဗ်ဗားအ် ဖြစ်သည်ဟု လာရှိပေသည်။

ကျော်တကက်ခံခဲ့ရသည့် ကုလားအုတ်တစ်ကောင်လည်း ရှိခဲ့သည်။ ၎င်း၏ အမည်မှာ ဂျဒ်အားအ် ဖြစ်သည်။

## ဆိတ်များ

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်ပါးတွင် ဆိတ်အကောင်(၁၀၀) ရှိသည်။ နို့သောက်ရန် သီးသန့်သတ်မှတ်ထားသော ဆိတ်မ၏ အမည်မှာ ဂိုင်ဆဟ် ဖြစ်သည်။

## ကြက်များ

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်ပါးတွင် အဖြူရောင် ကြက်ဖ တစ်ကောင်ရှိခဲ့သည်။

نور العيون ؛ ص : ١٠٤ـ١٠٨ ، تهذيب السيرة النبوية ؛ ص : ٦٩

## ကိုယ်တော်မြတ်ကြီး ﷺ ၏လက်နက်တော်များ

### ဓါးများ

ကိုယ်တော်မြတ်ကြီး ﷺ ထံတွင် ဓါးတော် (၉) လက်ရှိခဲ့သည်။
(၁) ဇွလ်ဖေ့ကားရ် (ဗဒရ် စစ်ပွဲအပြီး ဗနူလ် ဟဂ်ျဂျားဂ်ျ ၏ သုံ့ပန်းများ တွင် ပါလာခဲ့သည်။ ကိုယ်တော်မြတ်ကြီး၏ အိပ်မက်တစ်ခု၌ ဤဓါးတွင် အပေါက်တစ်ခု တွေ့လိုက်ရသည်။ ထိုအခါ ကိုယ်တော်မြတ်ကြီးက ရှုံးနိမ့်ခြင်း သဘောဆောင်ကြောင်း မိန့်လိုက်သည်။ အိုဟိုဒ် စစ်ပွဲတွင် ဤအိပ်မက်သဘော ထင်ရှားခဲ့သည်။)
(၂+၃+၄ ) ဗနူကိုင်နို့ကားအ် ထံမှ ရရှိသောဓါးများ (အလ်ကလအီ၊ အလ်ဘသ်သါးရ်၊ အလ် ဟသ်ဖ်) (၅) မိခ်ဇမ် (၆) ရစူးဗ် (၇) မအ်ဆူးရ် (ဖခင်ထံမှ အမွေအဖြစ် ရရှိခဲ့ သည်။) (၈) အလ် အသ္ဗ် (စအ်ဒ် ဗင်န် အိုဗာဒဟ် သခင်ပေးခဲ့သော လက်ဆောင်) (၉) အလ်ကသွီးဗ် (အစ္စလာမ်သာသနာတော်တွင် ပထမဆုံး ချစ်နဗီလွယ်ခဲ့သော ဓါး)

### လှံတော်များ

လှံတော်များမှာ (၄) ချောင်းရှိသည်။
(၁) အလ် မွန်ဆနီ (၂+၃+၄) ဗနူကိုင်နို့ကားအ် ထံမှ ရရှိသော

လုံ့တော်များ

## အခြားသော လက်နက်များ

အီးဒ်နေ့များ၌ ကိုယ်တော်မြတ်ကြီး ﷺ ရှေ့မောက်တွင် စိုက်ထူလေ့ရှိသော သံကွပ်ထားသည့် တုတ်ငယ်တစ်ချောင်းလည်း ရှိသည်။

လက်တစ်တောင်ခန့် တောင်ဝှေးတစ်ခုလည်း ရှိသည်။ အွရ်ဂျူးန် အမည်ရှိ တောင်ဝှေးတစ်ခုလည်း ရှိသည်။ မမ်ရှူးက် အမည်ရှိ သစ်ကိုင်းတစ်ခုလည်း ရှိသည်။

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်ပါးတွင် ဒူးလေး (၄)လက်နှင့် မြားဘူး တစ်ခုရှိသည်။

သိမ်းငှက်ပုံပါသော ဒိုင်းတစ်ခုလည်း လက်ဆောင်ရခဲ့သည်။ သိမ်းငှက်ပုံပေါ် ချစ်နဗီသည် မိမိ၏ ရွှေလက်တော်အား တင်တော်မူလိုက်ရာ ချက်ချင်း ပပျောက်သွားပေသည်။

## သံချပ်ကာ အင်္ကျီနှင့် သံခမောက်များ

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်တွင် ဗနူကိုင်နို့ကားအ် မှ ရရှိခဲ့သော စွဂ်ဒီယဟ်နှင့် ဖစ်သွဟ် အမည်ရှိ သံချပ်ကာ အင်္ကျီ (၂)ထည်လည်း ရှိသည်။ ထို့အတူ ဗဒ်ရ်နှင့် ဟိုနိုင်းန် စစ်ပွဲနေ့များတွင် ဝတ်ဆင်တော်မူခဲ့သည့် “ဇာသွလ ဖို့သိုးလ်” အမည်ရှိ သံချပ်ကာအင်္ကျီ တစ်ထည်လည်းရှိသည်။

အချို့အဆိုများတွင် ဟဇရသ် ဒါဝူးဒ် عَلَيْهِ السَّلَامُ သခင် ဂျာလူးဒ်အား သတ်ဖြတ်ချိန် ဝတ်ဆင်ခဲ့သည့် သံချပ်ကာအင်္ကျီလည်း ကိုယ်တော်မြတ်

ကြီး ﷺ ထံတော်ပါးတွင် ရှိကြောင်း သိရသည်။ ထိုအကျီ၏ အမည်မှာ စအ်ဒီယဟ် ဖြစ်သည်။

ချစ်နဗီ ﷺ ထံတော်ပါးတွင် သံခမောက်တစ်လုံးလည်း ရှိသည်။ ထိုသံခမောက်၏ အမည်မှာ စဗူးဂ် ဖြစ်သည်။

## အလံတော်

ကိုယ်တော်မြတ်ကြီး ﷺ ၏ အလံတော်အရောင်မှာ အဖြူရောင် ဖြစ်သည်။

نور العيون ؛ ص : ١٠٩ ـ ١١٢ ، تهذيب السيرة النبوية للنووي ؛ ص : ٦٨ ـ ٧٠

## ဓါးပတ်တော်

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်ပါးတွင် သားရေဖြင့် ပြုလုပ်ထားသော ဓါးပတ်တစ်ခုလည်း ရှိသည်။ ယင်းဓါးပတ်တွင် ငွေကွင်း (၃) ကွင်းပါသည်။ ဓါးပတ်ခေါင်းသည်ငွေဖြစ်သည်။ ဓါးပတ်အဖျားတွင်လည်း ငွေပါကြောင်းသိရသည်။

نور العيون ؛ ص : ١١٢

## ကိုယ်တော်မြတ်ကြီး ﷺ ၏ အဝတ်တော်များနှင့် အသုံးအဆောင်ပစ္စည်းများ

ကိုယ်တော်မြတ်ကြီး ﷺ သည် ကွယ်လွန်သည့်နေ့တွင် ချည်ဖြင့်

ပြုလုပ်ထားသော အဝတ်အထည်နှစ်ခု၊ အိုမန်နိုင်ငံထုတ် ပုဆိုးတစ်ကွင်း၊ ယီမင်နိုင်ငံ စိုဟာရီမြို့တွင် ယက်လုပ်ထားသည့် အထည်နှစ်ထည်၊ အင်္ကျီတစ်ထည်၊ ယီမင်နိုင်ငံ စဟူးလ် မြို့တွင်ယက်လုပ်သည့် အင်္ကျီတစ်ထည်၊ ယီမင်နိုင်ငံထုတ် ဂျုဗ္ဗာ တစ်ထည်၊ ခြုံထည်တစ်ထည်၊ အဖြူရောင်ဝတ်ရုံတစ်ထည်၊ ဦးခေါင်းတော်နှင့်ကပ်လျက်ရှိသည့် ဦးထုပ်တော် (၃)လုံး (သို့) (၄)လုံး၊ ကုံကုမံ သုတ်လိမ်းထားသည့် ဂွမ်းစောင် တစ်ထည် ထားရစ်ခဲ့သည်။

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်တွင် မှန်၊ ဆင်စွယ်ဖြင့် ပြုလုပ်ထားသော ခေါင်းဘီး၊ စွရ်မဟ်ဗူး၊ ကပ်ကြေး၊ မစ်ဝါးက် (တံပူ)များထည့်ရန် ခြင်းသေးတစ်ခုလည်းရှိသည်။

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်ပါးတွင် သစ်ရွက်ခြောက်များဖြင့်ဖြည့်ထားသော သားရေခင်းတစ်ခု၊ ငွေရည်လောင်းထားသည့် ခွက် (၃)ခွက်၊ ရိုးရိုးခွက် (၁)ခွက်၊ ကြေးဖြင့်ပြုလုပ်ထားသော အိုးတစ်လုံး၊ ကြေးနီဖြင့်ပြုလုပ်ထားသော ဇလုံတစ်ခု၊ ဖန်ခွက်တစ်လုံး၊ ကြေးဝါဖြင့်ပြုလုပ်ထားသော ရေချိုးဇလုံတစ်ခု၊ ပန်းကန်ပြား တစ်ချပ်၊ ကုတင်တစ်လုံး၊ ခြုံစောင်တစ်ထည်၊ ငွေလက်စွပ်တစ်ကွင်း (ထိုလက်စွပ်တွင် محمد رسول الله ဟု ထွင်းထားသည်။)

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်ပါးတွင် အနက်ရောင် (ခွတ်ဖ်) သားရေခြေစွပ်လည်း ရှိသည်။ ထိုခြေစွပ်အား အီသီယိုးပီးယား ဘုရင် နဂျာရှီ က လက်ဆောင်ပေးခဲ့သည်။

ကိုယ်တော်မြတ်ကြီး ﷺ ထံတော်တွင် အနက်ရောင် ဝတ်ရုံတော်

တစ်စုံလည်းရှိသည်။ ထို့အတူ စဟားဗ် အမည်ရှိ အနက်ရောင် (ပပ်ဂ်ရီ) ပေါင်းထုပ် တစ်ခုလည်း ရှိသည်။ ထိုပေါင်းထုပ်အား ဟဇရသ် အလီ ﵁ အား လက်ဆောင်ပေးခဲ့ကြောင်းလည်း သိရသည်။

ထို့အတူ အခြားသောရက်များတွင်ဝတ်ဆင်လေ့မရှိဘဲ သောကြာနေ့တွင်သာ ဝတ်ဆင်လေ့ရှိသော အထည်နှစ်စုံလည်းရှိကြောင်း သိရသည်။

ဝုဇူရေ သန့်စင်ပြီးသောအခါ ရွှေမျက်နှာတော်အား သုတ်လေ့ရှိသော လက်ကိုင်ပုဝါ တစ်ထည်လည်း ရှိသည်။

هذا البحث كله منقول من "نور العيون لابن سيد الناس" ؛ ص : ١١٣ - ١١٥

## ကိုယ်တော်မြတ်ကြီး ﷺ ၏ အချို့သော မိုအ်ဂျေဇာများ

ဤနေရာတွင် ကိုယ်တော်မြတ်ကြီး ﷺ ၏ အချို့သော မိုအ်-ဂျေဇာ (သဘာဝနှင့် ဆန့်ကျင်သော၊ လူသားများမစွမ်းဆောင်နိုင်သည့် စွမ်းရည်စွမ်းပကားများ)ကို တင်ပြပါမည်။

(၁) ကုရ်အာန်ကျမ်းတော်မြတ် (အကြီးကျယ်ဆုံး မိုအ်ဂျေဇာ) ဖြစ်သည်။

(၂) ရင်တော်ခွဲခံရခြင်း

(၃) ဗိုင်သွလ် မိုကဒ္ဒတ်စ် နှင့် ပတ်သက်၍ သတင်းပေးခြင်း

(၄) လမင်းအား နှစ်ခြမ်းခွဲပြခြင်း

(၅) ကိုရိုင်ရှ်မျိုးနွယ်မှ ချစ်နဗီအား အဆုံးစီရင်ရန် ကြံစည်သူများ ရှေ့မှ ထွက်ခွာသွားခြင်း

(၆) ဟိုနိုင်းန် စစ်ပွဲဖြစ်ပွားသည့်နေ့တွင် ရန်သူများဘက်သို့ မြေကြီး တစ်ဆုပ် ပက်လိုက်တော်မူရာ ရန်သူများ ရှုံးနိမ့်သွားခြင်း

(၇) ချစ်နဗီနားခိုနေသည့် ဂူဝတွင် ချက်ချင်း ပင့်ကူများက အိမ် ယက်လုပ် လိုက်ခြင်း

(၈) ချစ်နဗီအား ဖမ်းဆီးရန် နောက်မှ လိုက်ခဲ့သည့် စိုရာကဟ် ဗင်န် မာလိက် ၏ မြင်းခြေထောက်များ မြေကြီးတွင် နစ်ဝင်သွားခြင်း

(၉) မိတ်မလိုက်ရသေးသည့် ဆိတ်မ၏ ကျောပေါ်တွင် ရွှေလက် တော် သပ်လိုက်ရာ နို့များထွက်လာခြင်း

(၁၀) အွမ့်မေ့အဗ်ဒ် ၏ ဆိတ်မ

(၁၁) ဟဇရသ်အိုမရ် ﷺ အစ္စလာမ်သာသနာလက်ခံတော်မူရန် ဒိုအာပြုခြင်း

(၁၂) ဟဇရသ်အလီ ﷺ သခင်အတွက် လွန်စွာအေးတတ်ခြင်း ပူတတ်ခြင်းများ ပပျောက်စေရန် ဒိုအာပြုပေးခြင်း

(၁၃)မျက်စိနာနေသော အလီ ﷺ သခင်၏ မျက်လုံးတော်တွင် တံတွေးတော် ထည့်လိုက်ရာ ချက်ချင်း ရောဂါ ပျောက်ကင်းသွားပြီး တစ်သက်လုံး မျက်စိနာရောဂါ မစွဲကပ်တော့ခြင်း

(၁၄) ကသာဒဟ် ဗင်န်နုအ်မာန် ﷺ ၏ မျက်လုံးများအား အစ ထက်ပင် ပိုမိုလှပစေပြီး နေရာမှန်တွင် ပြန်လည် ထားပေးခြင်း

(၁၅) ဟဇရသ် အဗ္ဗဒွလ္လာဟ် ဗင်န် အဗ္ဗါးစ် ﷺ အတွက် သာသနာတော်တွင် ဂဃနဏ နားလည်သဘောပေါက်ပြီး၊ ကျမ်းမြတ် ကုရ်အာန်၏ အနက်သဘောတရားများအား ခရေစေ့တွင်းကျ နားလည်

နိုင်သည့် ဥာဏ်ပါရမီ ရရှိရန် ဒိုအာပြုပေးခြင်း

(၁၆) ဟဇရသ် ဂျာဗိရ် ؓ သခင်၏ ကျော်တက်ခံရသည့် ကုလားအုတ်အတွက် ပြန်လည် ကျော်တက်နိုင်ရန် ဒိုအာပြုပေးခြင်း

(၁၇) ဟဇရသ် အနတ်စ် ؓ အတွက် သက်တမ်း၊ ဥစ္စာပစ္စည်းများနှင့် သား/သမီးတို့တွင် ဘရ်ကသ်ပေးရန် ဒိုအာပြုပေးခြင်း

(၁၈) ဟဇရသ် ဂျာဗိရ် ؓ ၏ ဖခင်အကြွေးပေးဆပ်ရန် မလုံလောက်သော စွံပလွံသီးများအတွက် ဒိုအာပြုလိုက်ရာ အကြွေးရှင်များအားလုံး အားပေးဆပ်နိုင်သည့်ပြင် ပိုလျှံနေခြင်း

(၁၉) မဒီနာမြို့တွင် မိုးခေါင်ရေရှားဖြစ်နေချိန် ဒိုအာပြုလိုက်ရာ ချက်ချင်းပင် တစ်ပတ်တိတိ မိုးများရွာသွန်းလာလေသည်။ မိုးများသောကြောင့် လယ်ယာများပျက်စီး၍ သတ္တဝါများပါ ဒုက္ခရောက်ရသောကြောင့် မိုးပြန်လည်ရပ်စဲသွားရန် ဒိုအာပြုပေးခြင်း

(၂၀) အွသ်ဗဟ် ဗင်န် အဗူလဟဗ် အတွက် ဗဒ်ဒိုအာ တောင်းလိုက်ရာ ဆီးရီးယားနိုင်ငံ ဇရ်ကားတွင် ၎င်းအားခြသေ့်က စားလိုက်ခြင်း

(၂၁) ကျေးတောသားတစ်ဦးအား အစ္စလာမ်ဘက်သို့ ဖိတ်ခေါ်ရာ ၎င်းက "အသင်ပြောသော စကားများမှန်ကန်ကြောင်း မည်သူက သက်သေပြမည်နည်း။"ဟု မေး၏။ ထိုအခါ ကိုယ်တော်မြတ်ကြီး ﷺ က "ဤသစ်ပင် သက်သေပေးမည်" ဟု မိန့်ကြားရာ သစ်ပင်က သက်သေပေးခဲ့သည်။ ထို့နောက် သစ်ပင်သည် မိမိနေရာတွင် ပြန်လည်ရောက်ရှိသွားသည်။

(၂၂) သစ်ပင်နှစ်ပင်အား စုစည်းပြီး ပြန်လည်ခွာရန် အမိန့်ပေး

ခဲ့ရာ မိန့်သည့်အတိုင်း ဖြစ်သွားခဲ့သည်။

(၂၃) ဖွတ်သည် ကိုယ်တော်မြတ်ကြီးမှာ ﷺ နဗီဖြစ်ကြောင်း သက်သေပေးခဲ့သည်။

(၂၄) ကိုယ်တော်မြတ်ကြီး ﷺ ၏ ရွှေလက်ချောင်းတော်များမှ ရေများ ပန်းထွက်ခဲ့ရာ ဆွဟာဗာပေါင်း (၁၄၀၀)သည် ယင်းမဂ်လာရေများကို သောက်သုံးခဲ့သည်။

(၂၅) ဗဒရ် စစ်ပွဲနေ့တွင် ဟဇရသ် အိုကာရှား رضي الله عنه ၏ ဓါးရှည် ကျိုးသွားတော်မူရာ ကိုယ်တော်မြတ်ကြီး ﷺ သည် သခင်ကြီးဘက်သို့ သစ်ကိုင်းတစ်ခု ကမ်းပေးလိုက်သည်။ သခင်ကြီး၏ လက်သို့ရောက်သော် ဓါးရှည် ဖြစ်သွားသည်။

ကိုယ်တော်မြတ်ကြီး ﷺ ၏ မိုအ်ဂျေ့ဇာတော်များမှာ မရေမတွက်နိုင်အောင်ပင် ရှိလေသည်။ အိပ်ရှေ့ စိုက်ယေ့ဒင်န် နားစ် သခင်သည် မိမိ၏ نـــور الـعيـون ကျမ်းတွင် အခြားသော မိုအ်ဂျေ့ဇဟ် (၃၂) ခုခန့်အား ဖော်ပြထားပေသည်။ အေမာမ် ဗိုင်ဟကီ သခင်၏ دلائـــــــل الـنبـوة ကျမ်းသည်လည်း သီးသန့် ချစ်နဗီ၏ မုအ်ဂျေ့ဇာများအား ဖော်ကျူးသော ကျမ်းတစ်ဆူ ဖြစ်သည်။

ယခု ဤနေရာတွင် ဖော်ပြထားသော မုအ်ဂျေ့ဇာများသည်လည်း ခိုင်လုံတိကျသည့် ဟဒီးဆ်ကျမ်းများ၊ စီရသ်ကျမ်းများတွင် အတိအလင်း လာရှိထားပေသည်။ ကျမ်းလေးမည်ကို စိုးရိမ်သောကြောင့် အညွှန်းများအား ဖော်ပြမထားပေ။ အကျယ်တဝင့်အား အိပ်ရှေ့ စိုက်ယေ့ဒင်န် နားစ်၏ نور العيون ကျမ်း၊ စာ (၁၁၆)မှ (၁၃၀) ထိ တွင် လေ့လာနိုင်သည်။

## ကိုယ်တော်မြတ်ကြီး ﷺ ၏ ရုပ်ဆင်းအင်္ဂါတော်

ဆွဟာဗာသာဝကကြီးတို့သည် ကိုယ်တော်မြတ်ကြီး ﷺ ၏ ရုပ်ဆင်းအင်္ဂါတော်၊ အလှအဆင်းသဏ္ဍာန်၊ ဂုဏ်ထူးဝိသေသ သွင်ပြင်လက္ခဏာများအား မိမိတို့ တတ်စွမ်းသရွေ့ သရုပ်ဖော်ကြသည်။ ယင်းတို့အနက်အချို့အား ဤနေရာတွင် ဖော်ပြလိုက်ရပေသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် ကိုယ်ဟန် အချိုးအစား ညီညာပြေပြစ်ပြီး မျက်စိ ဘဝင်ကျသော အရပ်အမောင်းပိုင်ရှင် ဖြစ်သည်။ ရင်တော်မှာ ခန့်ညားထည်ဝါသည်။ ရင်တော်မှ ချက်တော်အထိပါးလွှာသောအမွေးအမျှင်များ သွယ်တန်းလျက် ရှိနေသည်။ အသားအရေသည် စိုပြည်လှပပြီး ပန်းနုရောင် သန်းနေသည်။. . ဝင်းပလျက်ရှိသော လဝန်းစန္ဒာပမာ ထွန်းလင်းနေပြီး နှလုံးသားကို စွဲဆောင်စေသည်။ ပါးတော်မှာ နူးညံ့သိမ်မွေ့လှသည်။မျက်အိမ်မှာ ဖြူဖွေးပြီး မျက်ဆံတော်မှာ မည်းနက်နေသည်။ မျက်လုံးတော်များမှာ စွရ်မဟ် ဆွဲထားဘိအလား မည်းနက်နေသည်။ မျက်ခုံးတော်မှာ ကွေးပြီး သိပ်သည်းသည်။ မျက်တောင်တော်မှာ ကော့သည်။ ဆံကေသာ များမှာ လှိုင်းထပြီး ကျော့နေသည်။ လက်ဖဝါးတော်များမှာ ကျယ်ပြန့်သည်။ ခြေဖမိုးတော် နှစ်ဖက်သည် နူးညံ့ပြီး အသားများဖြင့် ပြည့်မို့နေသည်။ ခန္ဓာကိုယ်အစိတ်အပိုင်းများ၏ အရိုးအဆစ်များသည် တုတ်ခိုင်၍ ကြီးလေသည်။ (ဤသည် အားအင်သန်မာခြင်း၏ အထောက်အထားဖြစ်သည်။) ကြွမြန်းတော်မူသည့်အခါ ခြေတော်အား မ’၍ ရှေ့သို့ကိုင်းညွတ်ပြီး အနိမ့်မှ အမြင့်သို့ ဆင်းသက်

နေဘိ အလား သွက်လက်ပေါ့ပါးစွာ ကွမြန်းလေသည်။ တစ်ဦးတစ်ယောက်ဘက်သို့ အာရုံပြုသောအခါ စိတ်ရော ကိုယ်ပါ အာရုံပြုသည်။ လက်ပြင်တော်များကြားတွင် နဗူဝသ်၏ ဘွဲ့တံဆိပ်တော် ရှိသည်။ ယင်းသည် (အန္တိမ) နောက်ဆုံးတမန်တော် ဖြစ်ကြောင်းကို ဖော်ကျူးနေသည်။

هذا ا لبحث مقتبس من "تهذيب السيرة النبوية لابن هشام " ص: ٤٧، و "نور العيون " ص : ٤٣ـ ٤٥،

ချစ်နဗီ၏ အလှုဝိသေသများအား "ဂျာမေ့အသွလ် ကောင်ဆရစ်လ် အစ္စလာမီယဟ်"ကျောင်း(သတ္တမတန်း)တွင် ပညာသင်ကြားနေသော ကျွန်ုပ်၏ချစ်တပည့် မိုဟမ္မဒ် အလီ(G.T.I) (ချောက်မြို့) သည် ဤသို့ ရေးစပ်ဖွဲ့သီထားပေသည်။

## နဗီ့အလှ ဝိသေသ

۞ နဗီရဲ့ အလှတရား
ဝင့်ကြွားကာပုံဖော်
ခက်ဆစ်တွေ ရေလိုသုံး
ကာရံတွေ လည်း ပုန်းလျှို
အဆုံးဆိုတာ ဘယ်မရှိ
ပကတိ ကင်းစင်ပ့ါ။. . .

۞ ရုပ်အဆင်းပုံသဏ္ဌာန်
ကိုယ်နေဟန်ရဲ့ ပုံစံရိုး
မတိုးမလျော့ဘဲ ညီညာ

ကြည့်မိသူ ရင်မှာငြိ
ပသာဒရှိတဲ့ အလှ. . .
۞ ဆံတော်မှာ နက်မှောင်
လှိုင်းထသယောင်ထင်ရ
ကေသာအလှ တစ်ဖုံ
မျက်ဝန်းတစ်စုံ သဏ္ဍာန်
ဝတ်ဆံရယ် မည်းနက်
မျက်အိမ်မှာ ဖြူဖွေး
ရင်အေးတဲ့ အလှ. . .
۞ ဦးခေါင်းတော် ခန့်ညား
လက်၊ခြေဖဝါးမှာ ပြန့်ကျယ်
ရန်သူရယ် လန့်ခဲ့ကြ
လက်ရုံးရည် အလှ. . .
۞ လမ်းလျှောက်တဲ့ သူ့အသွင်
မြင့်ရာက နိမ့်ဆင်းထင်ရ
မြင်ရသူ ရှိန်ကြပြန်
စိတ်မှန်ကို တွေ့သူဘဝင်ခွေ့
သူ့စကားကို ရင်ခွင်ပွေ့ကြ
စာရိတ္တ အလှ. . .
۞ အဆင်း အချင်းရယ်ပြည့်ဝ
အာဝဇ္ဇန်း ရှင်ကြည်မြရယ်

ကျော အလယ်လက်ပြင်တော်ကြား
တစ်ပါးရှင် တံဆိပ်ကပ်ခဲ့
နဗူဝသ် အလှ. . .
۞ ဘယ်လိုပင် ပုံဖော်ကျူး
နဗီရဲ့ အလှထူးကိုဖြင့်
လည်ဝင့်လို့ မယှဉ်နိုင်
ကလောင်လည်း ငိုင်ခဲ့ရတယ်။

*အလီ-(ချောက်)*

## ချစ်နဗီ၏ ကိုယ်ကျင့်တရား နှင့် စာရိတ္တအလှများ

ဟဇရသ် အာအေရှာ သခင်မကြီးအား တစ်ဦးတစ်ယောက်က ကိုယ်တော်မြတ်ကြီး ﷺ ၏ စာရိတ္တတော်များနှင့် စပ်လျဉ်း၍ မေးမြန်းသောအခါ သခင်မကြီးက "ချစ်နဗီ၏ ကိုယ်ကျင့်တရား စာရိတ္တအလှများ၏ ပြယုဂ်သည် ကုရ်အာန်ကျမ်းတော်မြတ်ပင်ဖြစ်သည်" ဟု ဖြေကြားခဲ့သည်။

أخرجه البخاري في ((الأدب المفرد)) (٣٠٨) ، ومسلم في ((صحيحه)) (٧٤٦) ، وأحمد في ((مسنده)) (٩١/٦) ، والبيهقي في ((شعبه)) (١٤٢٨) . نقلا عن "نورالعيون" ؛ ص : ٤٨

မိမိစိတ်အတွက် မည်သူ့ကိုမှ ကလဲ့စားချေလေ့မရှိ။ စိတ်အတွက်လည်း မည်သူ့ကိုမှ ဒေါသထွက်ခြင်းမရှိချေ။ သို့သော် အရှင်မြတ်၏ အမိန့်တော်များ ချိုးဖောက်ခံနေရလျှင် အရှင်မြတ်အတွက် ဒေါသထွက်လေသည်။ လက်ရုံးရည် နှလုံးရည်နှင့် ပြည့်စုံသူဖြစ်ပြီး အာဝဇ္ဇန်းရှင်သူ

ဖြစ်သည်။ လူတို့တွင် ကတိသစ္စာတည်ကြည်ဆုံးဖြစ်သည်။ နူးညံ့သိမ်မွေ့သော စိတ်နေသဘောထား ပိုင်ရှင်ဖြစ်ပြီး မိမိ၏ မိတ်ဆွေများအား ဂုဏ်ပေးလေးစားသူဖြစ်သည်။

တောင်းရမ်းလာသူအား မပေး/မရှိဟု ဆိုလေ့မရှိပေ။ အိမ်တော်တွင် ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးများ စုဆောင်းလေ့မရှိချေ။ အလ္လာဟ်အရှင်မြတ် ချီးမြှင့်ထားသော အစားအစာများမှ အနည်းငယ်သာ မိမိနှင့်အိမ်သားများအတွက် တစ်နှစ်စာ ချန်ထားလေ့ရှိသည်။ တစ်ခါတရံ နှစ်ပတ်မလည်ခင်ပင် ယင်းအစားအစာများသည် ကုန်ခမ်းသွားလေ့ရှိသည်။

ခန္တီတရားကို အမြဲလက်ကိုင်ထားသူဖြစ်သည်။ အရှက်တရားလွန်စွာထားသူလည်း ဖြစ်သည်။ အပျိုစင်ထက်ပင် ရှက်တတ်သည်။

မျက်လွှာတော်အား အမြဲချထားသည်။ မိုးပေါ်ကြည့်ခြင်းထက် မြေဘက်သို့ ကြည့်ခြင်းသည် ပိုမိုများပြားသည်။ အမြဲ ဂရုတစိုက် အာရုံပြုလေ့ရှိသည်။ လူတို့တွင် ရိုကျိုးဆုံးသောသူလည်းဖြစ်သည်။ ဆင်းရဲသားဖြစ်စေ၊ သူကြွယ်ဖြစ်စေ၊ ကျွန်ဖြစ်စေ၊ သူကောင်းဖြစ်စေ အားလုံး၏ ဖိတ်ခေါ်မှုအား လက်ခံလေ့ရှိသည်။

လူတို့တွင် အကြင်နာတရားလွန်စွာ ထားသူဖြစ်သည်။ ကြောင်လေးများ လွယ်ကူစွာ သောက်သုံးနိုင်ရန် ရေခွက်အား စောင်းပေးလေ့ရှိသည်။ အာသာမပြေဘဲ ရေခွက်အားပြန်လည် မ'တော်မမူပေ။

ကိုယ်တော်မြတ်ကြီး ﷺ သည် လူတို့ရှေ့မှောက်တွင် မိမိ၏ ခြေတော်အား ဖြန့်ထားခြင်းမရှိချေ။ နေရာကျဉ်းမြောင်းနေလျှင် ချဲ့ပေးသည်။ မိမိ၏ ထိုင်ဝိုင်းတွင် ထိုင်သူ၏ ရှေ့တွင် ဒူးတော်အား မကျူး

စေရန် ဂရုစိုက်တော်မူသည်။

အပါးတွင် ဝိုင်းရံလျက်ရှိသော သာဝကတော်များရှိသည်။ ချစ်နဗီ မိန့်ခွန်းသောအခါ အမိန့်တော်သံကို တိတ်ဆိတ်စွာ နာခံလေ့ရှိသည်။ အမိန့်ပေးသောအခါ ဆောင်ရွက်ရန် အသင့်ရှိနေကြသည်။

တွေ့ဆုံသူအား ဦးစွာ စလာမ်ပေးလေ့ရှိသည်။

မိမိမိတ်ဆွေများနှင့် ပတ်သက်ပြီး အမြဲတစေ စုံစမ်းမေးမြန်းလျှက်ရှိသည်။ နာမကျန်းဖြစ်သူအား ကိုယ်တော်တိုင် သွားရောက်လူမမာ မေးလေ့ရှိသည်။ အဝေးရောက်နေသူအဖို့ဒိုအာပြုပေးလေ့ရှိသည်။ တစ်ဦးတစ်ယောက်ကွယ်လွန်သောအခါ إِنَّا لِلَّهِ ဖတ်ပေးပြီး ချက်ချင်း ဒိုအာပြုပေးသည်။

သူဆင်းရဲ၊ သူဌေး၊ မွန်မြတ်သူများအားလုံးအား လူတန်းစား မခွဲခြားဘဲ တပြေးညီ ဆက်ဆံသည်။ လူတိုင်းအား ကြင်နာဖက်သည့် အပြုံးမျက်နာနှင့် ဆက်ဆံသည်။ မျက်နှာထားတင်းမာစွာ ဆက်ဆံခြင်း မရှိချေ။ အခက်အခဲရှိသူ၏ အကြောင်းပြချက်အား လက်ခံပေးလေ့ရှိသည်။ အားရှိသူ၊ အားနည်းသူ အားလုံး၏ အခွင့်အရေးသည် ကိုယ်တော့်ထံတွင် တပြေးညီဖြစ်သည်။

မည်သူကိုမှ ကျောပေး၍ လမ်းလျှောက်ခြင်းမရှိချေ။ “ငါ၏ နောက်တွင် ကောင်းကင်တမန်တော်များ လျှောက်ရန် ချန်ထားကြ”ဟု မိန့်လေသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် ကိုယ်တော်တိုင်စီးနင်းလျှက် မိမိနှင့်အတူ လိုက်ပါလာသူတစ်ဦးတစ်ယောက် လမ်းလျှောက် လိုက်ပါ

ခြင်းကို မနှစ်မြို့ပေ။ သို့သာမက ၎င်းအား မိမိနှင့်အတူ အစီးအနင်း ပေါ်တွင် လိုက်ပါစေသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် မိမိအား ဝတ်ကြီးဝတ်ငယ်ပြု သူများကိုလည်း ပြန်လည် ဝတ်ကြီးဝတ်ငယ်ပြုပေးသည်။

ကိုယ်တော်မြတ်ကြီး ﷺ ထံပါးတွင် ကျေးကျွန်များလည်း ရှိခဲ့သည်။ သို့သော် စားသောက်ရာတွင် လည်းကောင်း၊ ဝတ်စားဆင်ယင် ရာတွင် လည်းကောင်း မိမိ၏ ကျွန်များထက် ပိုမိုခြင်း မရှိခဲ့ပေ။

ကိုယ်တော်မြတ်ကြီး ﷺ အား ဝတ်ကြီးဝတ်ငယ် ပြုသူ ဟဇရသ် အနတ်စ် ကိုယ်တော်တိုင် မိန့်ခဲ့သည်။ "ကျွန်ုပ်သည် ကိုယ်တော်မြတ်ကြီး ﷺ အား (၁၀) နှစ်တိုင်တိုင် ဝတ်ကြီးဝတ်ငယ်ပြုခဲ့သည်။ သို့သော် ခရီးတွင် ဖြစ်စေ ၊ အိမ်တွင် ဖြစ်စေ ကျွန်ုပ်ကိုယ်တော်မြတ်ကြီး ﷺ အား ပြုစုသည်ထက် ကိုယ်တော်မြတ်ကြီး၏ ကျွန်ုပ်အား ပြုစုမှုက သာပိုခဲ့ သည်။ ကျွန်ုပ်အား ဘယ်သောအခါမှ (အိုဟ်) ဟုပင် မငေါက်ခဲ့ပေ။ ကျွန်ုပ်ပြုလုပ်သည့် ကိစ္စအား "အသင်အဘယ့်ကြောင့် ဤကိစ္စရပ် အား ဆောင်ရွက်ရသနည်း"၊ ကျွန်ုပ်မပြုလိုက်သည့် ကိစ္စနှင့် ပတ်သက်၍လည်း "အသင်အဘယ့်ကြောင့် ဤကိစ္စရပ်အား မပြုလုပ်သနည်း " ဟုပင် မေးခွန်း မထုတ်ခဲ့ဖူးပေ။

တစ်ချိန်တွင်ကိုယ်တော်မြတ်ကြီး ﷺ သည် ခရီးထွက်ခဲ့သည်။ ခရီးတွင် ဆိတ်တစ်ကောင်အား စားသုံးရန် အသင့်ပြုလိုက်သည်။ တစ်ဦး က "ကျွန်ုပ်သည် လှီးဖြတ်ခြင်း တာဝန်ယူမည်"၊ နောက်တစ်ဦးက "ကျွန်ုပ်သည် သားရေခွာခြင်း တာဝန်ယူမည်"၊ အခြားတစ်ဦးက "ချက်

ပြုတ်ရန် တာဝန်ယူမည် ” ဟု အသီးသီး လျှောက်ထားကြရာ ကိုယ်တော်မြတ်ကြီးက “ငါကိုယ်တော်သည် ထင်းခွေမည့် တာဝန်ကို ယူမည်” ဟု မိန့်ကြားခဲ့သည်။ ထိုအခါ သာဝကတော်များက “အို- ချစ်နဗီ ကျွန်ုပ်တို့ ဤကိစ္စရပ်များ ဆောင်ရွက်ရန် လုံလောက်ပါသည်” ဟု ဆိုကြရာ ကိုယ်တော်မြတ်ကြီးက “အသင်တို့ လုံလောက်ကြောင်း ငါသိတော်မူသည်။ သို့သော် ငါသည် အသင်တို့နှင့် ဤသို့ခြားသွားခြင်းကို မလိုလားပေ။ မြင့်မြတ်တော်မူသော အရှင်မြတ်သည် မိမိမိတ်ဆွေများကြားတွင် တသီးတခြား အခန့်သားနေသူအား နှစ်မျိုတော် မမူပေ။” ဟု မိန့်သည်။ ထို့နောက် ထင်းခွေရန် ကွေမြန်းသွား တော်မူပေသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် ထိုင်သည်ဖြစ်စေ၊ ထသည်ဖြစ်စေ အရှင့်နာမတော်အား အမြဲတသ သတိရလေ့ရှိခဲ့သည်။ အုပ်စုတစ်စု ထံပါးတွင် သွားရောက်သောအခါ ထိုင်ဝိုင်းဆုံးသည့်နေရာတွင် ထိုင်တော်မူလေသည်။ ထိုင်ဝိုင်းသားအားလုံးအား ၎င်းတို့၏ ရပိုင်ခွင့်အား အပြည့်အဝ ပေးလေ့ရှိသည်။ ထိုင်ဝိုင်းရှိပုဂ္ဂိုလ်တိုင်းသည် မိမိထက်ပို၍ ကိုယ်တော့်ထံတွင် ဂုဏ်ပေးခံရသူ မရှိဟု ထင်ရလောက်အောင်ပင် မခွဲခြားပဲ ဆက်ဆံလေ့ရှိသည်။ ထိုင်လျက်ရှိစဉ် ဦးစွာ ထလေ့မရှိပေ။ အရေးပေါ်ကိစ္စတစ်ခုခုကြောင့် ထလိုလျှင်လည်း ခွင့်တောင်းပြီး မှသာ ထလေ့ရှိသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် အဆိုးအား အကောင်းနှင့်သာ တုန့်ပြန်လေ့ရှိပြီး “သင်မကောင်းလျှင်လည်း ကျွန်ုပ်မဆိုးပါ”ဟူသည့် ဆောင်ပုဒ်အား ရင်ဝယ်ပိုက်ထားပေသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် သူဆင်းရဲများအား ချစ်ခင်မြတ်နိုးသည်။ ၎င်းတို့နှင့် အတူထိုင်လေ့ရှိသည်။ ၎င်းတို့အနက် တစ်ဦးဦးကွယ်လွန်သေဆုံးလျှင်လည်း ဂျနာဇာအား လိုက်လံပို့ဆောင်ပေးလေ့ရှိသည်။ သူဆင်းရဲတစ်ဦးအား ၎င်း၏ ဆင်းရဲခြင်းကြောင့် အထင်အမြင်မသေးပေ။ အာဏာရှင်အား ယင်း၏ အာဏာစက်ကြောင့် မရှိန်ပေ။ အရှင်မြတ်၏ စည်းစိမ်တော်များအား သေးငယ်လင့်ကစား အလေးထားသည်။ မည်သည့်စည်းစိမ်ကိုမှ ပြစ်တင်ရှုံ့ချခြင်းမရှိပေ။

မည်သည့်အစားအသောက်ကိုမှ ပြစ်တင်ခြင်းမရှိ၊ နှစ်သက်လျှင်စားသုံး တော်မူပြီး မနှစ်မြို့တော်မူက စွန့်လွှတ်တော်မူပေသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် မိမိ၏ အိမ်နားနီးချင်းများအား ဂရုစိုက်လေ့ရှိသည်။ မိမိဧည့်သည်အား ဂုဏ်ပေးလေးစားလေ့ရှိသည်။ ရွှေမျက်နှာတော်ပေါ်တွင် အစဉ်အမြဲ ပြုံးရိပ်များခိုတွဲနေသည်။ အလ္လာဟ်အရှင်မြတ်အတွက် မဟုတ်သော၊ အရေးမပါသော ကိစ္စရပ်များအတွက် အချိန်ပေးလေ့မရှိချေ။ ကိစ္စရပ်နှစ်ခုနှင့် ပတ်သက်၍ ရွေးချယ်ပိုင်ခွင့်ပေးခံရသောအခါ ၎င်းတို့အနက် အလွယ်ကူဆုံးကိုသာ ရွေးချယ်လေ့ရှိသည်။ သို့သော် ရွေးချယ်ရမည့် ကိစ္စရပ်နှစ်ခုလုံးသည် ဆွေမျိုးဖြတ်ရန် ဆိုပါက ရွေးချယ်ရန်ဝေးစွ ဝေးဝေးရှောင်ခဲ့ပေသည်။

ဖိနပ်တော်အား ကိုယ်တိုင်ချုပ်လုပ်လေ့ရှိပြီး၊ ပြဲနေသော အင်္ကျီများအား ကိုယ်တော်တိုင် ဖာထေးလေ့ရှိသည်။

မြင်း၊ မြည်း၊ လား အစရှိသည့်သတ္တဝါတို့အား စီးနင်းခဲ့သည်။ မိမိနောက်တွင်လည်း ကျေးကျွန်(သို့) အခြားသူတစ်ယောက်ယောက်အား

ထိုင်စေသည်။

မိမိမြင်း၏ မျက်နှာအား အင်္ကျီလက်ဖတ် (သို့) ခြုံထည်ဖြင့် သုတ်ပေးလေ့ ရှိသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် ကောင်းသောနိမိတ် ကောက်ခြင်းအား နှစ်သက်လေ့ရှိသည်။ နိမိတ်ဆိုးကောက်ခြင်း အားနှစ်သက်မှု မရှိချေ။

နှစ်သက်ဖွယ်ရာနှင့် ကြုံဆုံရသောအခါ (اَلْحَمْدُ لِلّٰهِ رَبِّ الْعَالَمِيْنَ) ဖတ်လေ့ရှိသည်။ မနှစ်သက်ဖွယ်ရာနှင့် ကြုံဆုံရသောအခါ ( اَلْحَمْدُلِلّٰهِ عَلٰى كُلِّ حَالٍ) ဟု ရွတ်ဆိုလေ့ရှိသည်။

အစားအသောက်များ သုံးဆောင်ပြီးချိန် ရှေ့မှောက်မှ ပြန်လည်မ'ယူသွား သောအခါ (اَلْحَمْدُلِلّٰهِ الَّذِيْ ، أَطْعَمَنَا ، وَسَقَانَا، وَآوَانَا ، وَجَعَلَنَا مِنَ الْمُسْلِمِيْنَ )

ထိုင်သောအခါတွင်လည်း ကစ်ဗ်လာဘက်သို့ လှည့်၍ ထိုင်လေ့ရှိသည်။ ဇစ်က်ရ် ပွားများလေ့ရှိသည်။ နမားဇ်အား ရှည်ကြာစွာ ဖတ်လေ့ရှိသည်။ တစ်ထိုင်တည်းတွင် အိစ်သေ့ဂ်ဖားရ် အကြိမ်(၁၀၀) ရွတ်ဆိုလေ့ရှိသည်။

ကိုယ်တော်မြတ်ကြီး ﷺ ၏ ရင်တော်တွင် နမားဇ်ဖတ်စဉ် အိုးဆူသံကဲ့သို့ ငိုကြွေးသံများ ကြားရသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် ရမ္မဇန်လအပြင် တနင်္လာနေ့၊ ကြာသပတေးနေ့နှင့် လစဉ် (၃)ရက်၊ အာရှူရာနေ့များတွင် ရိုဇာထားလေ့ရှိသည်။ သောကြာနေ့တွင်လည်း ရိုဇာထားလေ့ရှိသည်။

အိပ်စက်အနားယူတော်မူသောအခါ ဟောက်လေ့မရှိချေ။

အိပ်မက်တွင် မနှစ်မြို့ဖွယ်ရာများအား မြင်တွေ့ရလျှင်. . . (هُوَاللّٰهُ لَاشَرِيْكَ لَه) ကို ရွတ်ဖတ်လေ့ရှိသည်။

အိပ်ယာဝင်သောအခါ (رَبِّ قِنِيْ عَذَابَكَ يَوْمَ تَبْعَثُ عِبَادَكَ) အား ရွတ်ဆိုလေ့ရှိသည်။

အိပ်ယာမှ ပြန်လည် နိုးထသောအခါ. . . (اَلْحَمْدُ لِلّٰهِ الَّذِيْ أَحْيَانَا بَعْدَ مَا أَمَاتَنَا وَإِلَيْهِ النُّشُوْرُ) ဖတ်လေ့ရှိသည်။

## ချစ်နဗီ ﷺ ၏ စားသုံးတော်မူခြင်း

ကိုယ်တော်မြတ်ကြီး ﷺ သည် ဆွဒကဟ် ပစ္စည်းအား စားသုံးတော်မမူပေ။ လက်ဆောင်ဆိုလျှင် သုံးဆောင်တော်မူပြီး ယင်းလက်ဆောင်အစား တစ်ခုခုပြန်လည် ပေးလေ့ရှိသည်။ စားသောက်ရာတွင် ဖွယ်ဖွယ်ရာရာ လုပ်စားလေ့မရှိချေ။ တစ်ခါတရံ ဆာလောင်မွတ်သိပ်မှုဒဏ်ကြောင့် ဝမ်းဗိုက်တော်တွင် ကျောက်ခဲများ ချည်နှောင်ခဲ့သည်။

မြင့်မြတ်တော်မူသော အရှင်မြတ်သည် ကိုယ်တော်မြတ်ကြီး ﷺ အား မြေပထဝီ၏ ဘဏ္ဍာသော့များ ချီးမြှင့်တော်မူခဲ့ရာ အာခေရသ်ကိုသာ ရွေးခဲ့သည်။

မုန့်အား စစ်ရ်ကာရည်ဖြင့် တို့စားတော်မူသည်။

ကြက်သားနှင့် ဟိုဗာရာအမည်ရှိငှက်သားကိုလည်း သုံးဆောင်တော်မူခဲ့သည်။ ဘူးသီးနှင့် ဆိတ်၏ လက်ဖျံသားကိုလည်း နှစ်သက်တော်မူသည်။

သံလွင်ဆီအား စားသုံးတော်မူပြီး လိမ်းလေ့လည်းရှိသည်။ အများအားဖြင့် လက်ချောင်းတော် (၃) ချောင်းဖြင့် သုံးဆောင်လေ့ရှိပြီး ယင်းလက်ချောင်းလေးများအား စုပ်လေ့ရှိသည်။

မုယောဆန်ဖြင့်လုပ်ထားသော မုန့်များအား စွံပလွံသီးဖြင့် စားသုံးတော်မူပြီး၊ ဖရဲသီး၊ သခွါးသီးတို့အား ရှိသွက်ဗ် အမည်ရှိ (အရည်ရွှမ်းနေသော) စွံပလွံသီးဖြင့် သုံးဆောင်တော်မူခဲ့သည်။ စွံပလွံသီးအား မလိုင်ဖြင့်လည်း သုံးဆောင်တော်မူခဲ့သည်။ မုန့်အချိုများနှင့် ပျားရည်အား နှစ်သက်တော်မူသည်။

ရိုးရိုးရေအား အမြဲတစေထိုင်ပြီး သောက်လေ့ရှိပြီး ရံဖန်ရံခါ မတ်တပ်ရပ်လျှက်လည်း သောက်သုံးတော်မူခဲ့သည်။ သုံးကြိမ်သုံးခါ နားပြီး သောက်လေ့ရှိသည်။ ဤသို့ခေတ္တနားချိန် ရေခွက်အား နှုတ်တော်ဖြင့် ခွာထားလေသည်။

တစ်ဦးတစ်ယောက်အား နို့ (သို့)ရေတိုက်ကျွေးသောအခါ ညာဘက်မှ စလေ့ရှိသည်။

ထို့နောက် အမိန့်ရှိသည်မှာ. . .

"အသင်တို့အနက်တစ်ဦးတစ်ယောက်အား အရှင်မြတ်က ကျွေးမွေးသောအခါ (اَللّٰهُمَّ بَارِكْ لَنَا فِيْهِ وَأَطْعِمْنَا خَيْرًا مِنْهُ) ဟု ရွတ်ဆိုကြကုန်။ အရှင်မြတ်က နို့တိုက်ကျွေးသော် (اَللّٰهُمَّ بَارِكْ لَنَا فِيْهِ وَزِدْنَا مِنْهُ) ဟု ဆိုကြကုန်။

## ကိုယ်တော်မြတ်ကြီး ﷺ ၏ ဝတ်စားဆင်ယင်ပုံ

ကိုယ်တော်မြတ်ကြီး ﷺ သည် သိုးမွေးအားဝတ်လေ့ရှိသည်။ အဝတ်အစားများအား ကြွားကြွားရွားရွား ဝတ်လေ့မရှိပေ။

အင်္ကျီအသစ်ဝတ်ဆင်သောအခါ အောက်ပါဒိုအာအား ဖတ်လေ့ရှိသည်။

((اَللّٰهُمَّ لَكَ الْحَمْدُ كَمَا أَلْبَسْتَنِيْهِ ؛ أَسْأَلُكَ خَيْرَهُ ، وَخَيْرَ مَاصُنِعَ لَهُ ، وَأَعُوْذُبِكَ مِنْ شَرِّه ، وَشَرِّ مَاصُنِعَ لَهُ ))

အစိမ်းရောင်နှင့် အဖြူရောင်အဝတ်အထည်များကို နှစ်သက်တော်မူသည်။

محمد رسول الله ဟု ထွင်းထားသော ငွေလက်စွပ်အား ညာဘက်လက်သူကြွယ်တော်၊ တစ်ခါတရံ ဘယ်ဘက်တွင် ဝတ်လေ့ရှိသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် အမွှေးနံ့သာအား အလွန်ပင်နှစ်သက်သည်။ ရံဖန်ရံခါ သစ်မွှေး၊ ကတိုး၊ အမ်ဘရ် များဖြင့် ပေါင်းစပ်ပြုလုပ်ထားသော ရေမွှေးအား အသုံးပြုလေ့ရှိသည်။ တစ်ခါတရံ ကတိုးတစ်ခုတည်းကိုသာ သုတ်လိမ်းလေ့ရှိသည်။ တစ်ခါတရံ သစ်မွှေးနှင့် ပရုပ်အား မီးရှို့ထားသည်။

မျက်လုံးတော်တွင်လည်း စွရ်မာအသုံးပြုလေ့ရှိသည်။ ညာဘက်မျက်လုံးတော်တွင် (၃)ကြိမ်၊ ဘယ်ဘက်မျက်လုံးတော်တွင် (၂)ကြိမ် သားလေ့ရှိသည်။

ရိုဇာထားလျှက်လည်း စွရ်မာအသုံးပြုလေ့ရှိသည်။

ရက်ခြား၍ ဆံပင်များကိုဆီလိမ်းတော်မူသည်။

ဦးခေါင်းတော်အားဘီးဖြီးချိန်၊ ဖိနပ်တော်အား ဝတ်ချိန်၊ သန့်ရှင်းမှုများပြုချိန်နှင့် အခြားသော ကိစ္စအဝဝအား ဆောင်ရွက်ရာတွင် လက်ယာဘက်မှ အစပြုခြင်းကို နှစ်သက်တော်မူသည်။

မှန်လည်း ကြည့်တော်မူခဲ့သည်။

ခရီးတွင်အမြဲ ဆီပုလင်း၊ စွရ်မဟ်ဘူး၊ မှန်၊ ခေါင်းဖြီး၊ ကပ်ကြေး၊ မစ်ဝါးက်(တံပူ) အပ်နှင့် အပ်ချည်တို့အား အမြဲယူဆောင်သွားလေ့ရှိသည်။

ညဥ့်အချိန်တွင် (၃)ချိန်ထက်မနည်း မစ်ဝါးက် (တံပူ)စားလေ့ရှိသည်။ မအိပ်စက်မီ၊ အိပ်ယာမှထသောအခါ၊ (သဟဂျ်ဂျုဒ် ချိန်) ထသောအခါ၊ ဖဂျ်ရ်နမားဇ်အတွက် ထွက်တော်မူသော အခါတွင်လည်း တံပူစားလေ့ရှိသည်။

ကိုယ်တော်မြတ်ကြီး ﷺ သည် ခန္ဓာကိုယ်တွင်းမှ ရောဂါဖြစ်စေမည့် သွေးများအား ထုတ်ပစ်လေ့ရှိသည်။

## ချစ်နဗီ ﷺ ၏ ကျိစယ်တော်မူခြင်း

ကိုယ်တော်မြတ်ကြီး ﷺ သည် ကျိစယ်တော်မူခဲ့သည်။ သို့သော် ကျိစယ်ရာတွင်လည်း မှန်ကန်သော နည်းဖြင့်၊ တရားတော်၏ ဘောင်အတွင်းမှ ယုတ္တိရှိရှိ ကျိစယ်လေ့ရှိသည်။

အမျိုးသမီးတစ်ဦးသည် ကိုယ်တော်မြတ်ကြီး ﷺ ထံ လာရောက်ပြီး မိမိအား ကုလားအုတ်ပေါ်တွင် စီးနင်းခွင့်ပေးရန် လျှောက်ထားသည်။ ထိုအခါ ချစ်နဗီ ﷺ က “အသင်မအား ကျွန်ုပ် ကုလား-

အုတ်မ၏ ကလေးပေါ်တွင်သာ ထိုင်ခွင့်ပေးနိုင်မည်” ဟု ကျီစယ်လိုက်သည်။ ထိုအခါ ဆွဟာဗီယာက “ကုလားအုတ်မ ၏ ကလေးလေးသည် ကျွန်မခန္ဓာကိုယ်အား နိုင်မည်မဟုတ်ပါ” ဟု လျှောက်ထားပြန်သည်။ ထိုအခါ အပါးရှိသာဝကတော်များက “ကုလားအုတ်တိုင်းသည် ကုလား-အုတ်မ၏ ကလေးမဟုတ်ပါလော့” ဟု ရှင်းပြခဲ့ကြသည်။

တစ်ရံရောအခါ ဆွဟာဗီယဟ် အဖွားအိုတစ်ဦးသည် ချစ်နဗီထံ အခစားဝင်ပြီး “အို-အလ္လာဟ်၏ ရစူလ်၊ ကျွန်တော်မျိုးမအား အရှင်မြတ် ဂျန္နသ်သို့ သွင်းပေးတော်မူရန် ဒိုအာပြုပေးပါ” ဟု လျှောက်ထားလေရာ ကိုယ်တော်မြတ်ကြီး ﷺ က “ဂျန္နသ် သုခံဘုံသို့ အဖွားအိုများ ဝင်ရောက်ရမည် မဟုတ်” ဟု ဖြေကြားလိုက်သည်။ ထိုအခါ အဖွားအိုသည် ငိုယိုကာ ပြန်လှည့်သွားလေသည်။

သို့ရှိရာ ချစ်နဗီသည် မိမိ၏ အဆွ်ဟာဗ်တော်များအား “အသင်တို့ အဖွားအိုအား ပြောကြားပါလေ။ “ဂျန္နသ်သုခဘုံသို့ အဖွားအိုအဖြစ်နှင့် ဝင်ရောက်ရမည်မဟုတ်ပေ” မြင့်မြတ်တော်မူသော အရှင်မြတ် အမိန့်ရှိတော်မူသည်မှာ. . . (ဧကန်မလွဲ ငါအရှင်မြတ်သည် (ဂျန္နသ် သုခဘုံ၌ရှိကုန်သော) ထိုအမျိုးသမီးတို့အား အထူးဖန်ဆင်းတော်မူခဲ့၏။ ထို့နောက် ယင်းတို့အား ပျိုကညာများ၊ သက်တူရွယ်တူများ အဖြစ် (ခင်ပွန်းသည်တို့) ချစ်ခင်စုံမက်ကြစေရန် ပြုလုပ်တော်မူခဲ့၏။ (ဤသည်) လက်ယာသားတို့အဖို့ ဖြစ်သည်။ (ကုရ်အာန်- ၅၆ း ၃၅၊၃၆၊၃၇၊၃၈)

အချုပ်ဆိုရသော် မြင့်မြတ်တော်မူသော အလ္လာဟ်အရှင်မြတ်သည် ကိုယ်တော်မြတ်ကြီး ﷺ အား မြောက်မြားစွာသော အရည်အချင်း

များ၊ စာရိတ္တမွန်များ၊ ကိုယ်ကျင့်တရားများဖြင့် အလှဆင်ပေးပြီး ခြောက်ပြစ်ကင်းသဲလဲစင် အဖြစ်နှင့် ဖန်ဆင်း ချယ်မှုန်းတော်မူခဲ့သည်။

မှတ်ချက် ။ ။ "ချစ်နဗီ၏ ကိုယ်ကျင့်တရားနှင့် စာရိတ္တအလှများ"မှ စ၍ ဤနောက်ဆုံးအခန်းထိ ရေးသားရာတွင် အိဗ်နေ့ စိုက်ယေ့-ဒင်န်နားစ် သခင်ကြီး၏ نور العيون ကျမ်းအား မှီငြမ်းခဲ့ပါသည်။ သခင်ကြီးသည် အကြောင်းအရာတိုင်း အချက်အလက်တိုင်းအား ကုရ်အာန်နှင့် မှန်ကန်တိကျ ခိုင်လုံ ကျစ်လျစ်ပြီး စံချိန်မီသော ဟဒီးဆ်ကျမ်းကြီးများမှ ကောက်နှုတ် ဖော်ပြထားပေသည်။ အသေးစိတ် အညွှန်များအား ကျမ်းလေးမည်ကို စိုး၍ ဤနေရာတွင် ဖော်ပြမထားပေ။ သို့သော် အကျယ်တဝင့် သိလိုသောသူများအဖို့ ယင်းကျမ်းအား ညွှန်းလိုက်ပါသည်။

الحمد لله الذي بنعمته تتم الصالحات ، والصلاة والسلام على من ذي الخلق العظيم ، الرؤوف الرحيم ، المكسو في التنزيل بحلل الثناء والتكريم .وعلى آله وصحبه ومن تبعهم بإحسان إلى يوم الدين .

/ربيع الأول / ١٤٣٤هـ الموافق ٢٠١٣/١/١٦م يوم الثلاثاء بعد صلوة العصر

أبو عويصم الندوي (غفر الله له وآبائه وأمهاته ومن أحسن إليه ومن أوصاه بالدعاء)

# သင့်လက်တစ်ကမ်းရှိ ကိုယ်တော့် ဘဝမှတ်တမ်း

နဗီတမန်တော်မြတ် ﷺ သည် ဆင်နှစ်(ရဗီအွလ်အောက်ဝ်ဝလ် (၉)ရက်၊ ခရစ်သက္ကရာဇ် ၅၇၁ခုနှစ်၊ ဧပြီလ၊ ၂၂ရက်၊ တနင်္လာနေ့ နံနက်မိုးသောက်လင်းချိန်တွင် မက္ကာဟ်ရွှေမြို့တော်၌ မီးရှူးသန့်စင် ဖွား မြင်တော်မူခဲ့သည်။

သက်တော် (၅)နှစ်တွင်. . . ဗနူစအဒ် မျိုးနွယ်သို့ နို့တိုက်မိခင် ဟဇရသ် ဟလီမာ သခင်မကြီးနှင့် အတူ လိုက်ပါသွားခဲ့သည်။ ထိုအချိန် တွင် ပထမအကြိမ် ရင်တော်ခွဲခံခဲ့ရသည်။

သက်တော် (၆)နှစ်တွင်. . . . ဘခင်ကြီး၏ သင်္ချိုင်းကို "ဇေယာရသ်" ပြုရန်သွားခဲ့သည်။ ထိုခရီးတွင်ပင် မိခင်မွန် မယ်တော် အာမေ့နဟ် သခင်မကြီး ကွယ်လွန်ခဲ့သည်။

သက်တော် (၈)နှစ်တွင်. . . အဘိုးဖြစ်သူ အဗ်ဒွလ် မွသ်သွလိဗ် ကွယ်လွန်ခဲ့သည်။

သက်တော် (၁၂)နှစ်တွင်. . . ဘကြီးတော် အဗူသွာလိဗ်နှင့် အတူ ဆီးရီးယားနိုင်ငံသို့ ပထမအကြိမ် ကုန်ကူးသန်းရောင်းဝယ်ရန် ထွက်ခဲ့သည်။

သက်တော် (၁၆)နှစ်တွင်. . . "ဖေဂျားရ်" ကျူးကျော်စစ်ပွဲ နှင့် "ဟစ်လ်ဖွလ် ဖိုသိုးလ် " အမည်ရှိ ပဋိညာဉ်စာချုပ် ချုပ်ဆိုရာတွင် ပါဝင် ခဲ့ပေသည်။

သက်တော် (၂၅)နှစ်တွင်. . . ဆီးရီးယားနိုင်ငံသို့ ဒုတိယအကြိမ် ကုန်ကူးသန်းရောင်းဝယ်ရန် ကြွမြန်းခဲ့သည်။ ထို့နောက် ခဒီဂျာသခင်မ

ကြီးနှင့် ထိမ်းမြားခဲ့သည်။

သက်တော် (၃၅)နှစ်တွင်. . . ကအ်ဗဟ်ကျောင်းတော်အား ပြန်လည် မွမ်းမံခဲ့သည်။ ဟဂျ်ရေ့ အတ်စ်ဝဒ် ကျောက်နက်တော်အား မိမိ၏ ရွှေလက်တော်ဖြင့် တပ်ဆင်ခဲ့သည်။

သက်တော် (၄၀)တွင်. . . ဩဂုတ်လ ၆ရက်နေ့၊ ခရစ်သက္ကရာဇ် ၆၁၀ခုနှစ်၊ ရမ်ဇန်လမြတ်တွင် ကောင်းကင်တမန်တော် ဂျစ်ဗ်ရအီးလ် သခင်သည် ပထမဆုံး ဝဟီဖြစ်သည့် စူရဟ်အလတ်က်၏ အစပိုင်း (၅) အာယသ်အား ဟေရာဟ် လိုဏ်ဂူတွင် ယူဆောင်လာခဲ့သည်။

သက်တော် (၄၆)နှစ်တွင်. . . အဗူဂျဟလ် က ချစ်နဗီအား အဆုံးစီရင်ရန် ကြံစည်ခဲ့သည်။

သက်တော် (၄၇)နှစ်တွင်. . . ရှိအ်ဗေ့အဗီသွာလိဗ် (အဗူသွာလိဗ် လျှိုမြောင်တွင်) အဆက်အသွယ်ဖြတ် ခံဘဝဖြင့် နေထိုင်ခဲ့ရသည်။

သက်တော် (၅၀)တွင်. . . ရှိအ်ဗေ့အဗီသွာလစ်ဗ် ၌ အဆက် အသွယ်ဖြတ်ခံဘဝမှ လွတ်မြောက်ခဲ့ရသည်။ အဗူသွာလိဗ်နှင့် ခဒီဂျာ رضـــي الله عــــنهـــــا သခင်မကြီးတို့လည်း ကွယ်လွန်ခဲ့သည်။ ဟဇရသ် စောင်ဝ်ဒဟ် နှင့် ထိမ်းမြားခဲ့သည်။ သွာအိဖ် သို့လည်း ကြွမြန်းခဲ့သည်။

သက်တော် (၅၁) တွင်. . . မဒီနာရွှေမြို့တော်မှ ဟေဒါယသ် ကံထူးရှင် (၆)ဦး အစ္စလာမ်လက်ခံခဲ့သည်၊ ဟဇရသ် အာအေရှဟ် رضي الله عنها သခင်မကြီးနှင့် ထိမ်းမြားခဲ့သည်။

သက်တော် (၅၂) တွင်. . . ဒုတိယအကြိမ် ရင်တော် ခွဲခံရသည်။ မေ့အ်ရားဂ်ျ ကောင်းကင်ဘုံနန်းခရီးသို့ ကြွမြန်းတော်မူခဲ့သည်။ ဒုတိယ

အကြိမ် မဒီနာရွှေမြို့တော်မှ ပုဂ္ဂိုလ်အချို့အီမာန်ယူခဲ့သည်။

သက်တော် (၅၃) ဟစ်ဂျ်ရီ (၁)ခုနှစ်တွင်. . . သက်တော် (၅၃) နှစ်၊ ဟစ်ဂျ်ရီ (၁)ခု၊ ဆွဖရ်လ (၂၆) ရက်နေ့တွင် မက္ကာဟ်ရှိ ကာဖိရ် အချို့က ချစ်နဗီအား အဆုံးစီရင်ရန် ကြံစည်ခဲ့ကြသည်။ ဆွဖရ်လ (၂၇) ရက်၊ ခရစ်သက္ကရာဇ် ၆၂၂ခု၊ စက်တင်ဘာလတွင် ချစ်နဗီသည် အလွန် တွယ်တာရသည့် မွေးရပ်မြေ မက္ကာအား နှုတ်ဆက်ခဲ့ပြီး မဒီနာရွှေမြို့ တော်သို့ ဟစ်ဂျ်ရသ်ပြု ပြောင်းရွှေ့တော်မူခဲ့သည်။ ရဗီအွလ်အောက်ဝလ် (၁၂)ရက်၊ ခရစ်သက္ကရာဇ် ၆၂၂ခု၊ စက်တင်ဘာလ ၂၇ ရက်၊ သောကြာနေ့တွင် ကိုယ်တော်မြတ်ကြီး ﷺ သည် မဒီနာရွှေမြို့တော် သို့ ရောက်ရှိတော်မူခဲ့သည်။

သက်တော် (၅၄) ဟစ်ဂျ်ရီ (၂) ခုနှစ်တွင်. . အဗ်ဝါ၊ ဘိုဝါးသ့်၊ ဗဒ်ရ် အူလာ၊ ဇွလ် အွတ်ဆ်ရ် ၊ ဗဒ်ရ် ကွဗ်ရာ ၊ ဘနူကိုင်နိုကားအ် ၊ စိုဝိုက်၊ ဗနူစိုလိုင်းမ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဤနှစ်တွင်လည်း ချစ်နဗီအား တတိယအကြိမ် အဆုံးစီရင်ရန် ကြိုးစားခဲ့သော်လည်း မအောင်မြင်ခဲ့ကြချေ။

သက်တော် (၅၅) ဟစ်ဂျ်ရီ (၃) ခုနှစ်တွင်. . . ဂသ့်ဖားန်၊ နဂျ်ရားန်၊ အိုဟိုဒ်၊ ဟမ်ရာအိုလ် အစဒ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဟဇရသ်ဟဖ်ဆွဟ်ဗင်န်သေ့ အိုမရ်၊ ဟဇရသ် ဇိုင်နဗ် ဗင်န်သေ့ ခိုဇိုင်မဟ် رضي الله عنهم တို့ဖြင့် ထိမ်းမြားခဲ့သည်။

သက်တော် (၅၆) ဟစ်ဂျ်ရီ (၄)ခုနှစ်တွင်. . . ရဂျီးအ်၊ ဗီးရေ့မအူနဟ်၊ ဘနူနဇွီးရ် စစ်ပွဲများ ဖြစ်ပွားခဲ့သည်။ ဟဇရသ်

အွမ်မေ့စလမဟ်နှင့် ထိမ်းမြားခဲ့သည်။ ဟဇရသ် ဇိုင်နဗ် ဗင်န်သေ့ ခိုဇိုင်မဟ် رضي الله عنهم သခင်မကြီးလည်း ကွယ်လွန်သွားခဲ့သည်။

သက်တော် (၅၇) ဟစ်ဂျ်ရီ (၅)ခုနှစ်တွင်. . . ဒူးမသွလ် ဂျွန်ဒွလ်၊ အဟ်ဇားဗ် (ခန်ဒတ်က်)၊ ဗနူ ကိုရိုင်ဇွဟ်၊ ဟဇရသ် အာအေ့ရှာ အပေါ် (အိဖ်က်) မဟုတ်မမှန် လုပ်ကြံသမုတ်သည့် ပြဿနာများ ဖြစ်ပွားခဲ့သည်။ ဟဇရသ် ဇိုင်နဗ် ဗင်န်သေ့ ဂျဟ်ရှ်၊ ဟဇရသ် ဂျိုဝိုက်ရီယဟ် သခင်မကြီးတို့နှင့် ထိမ်းမြားခဲ့သည်။

သက်တော် (၅၈) ဟစ်ဂျ်ရီ (၆)ခုနှစ်တွင်. . အိုရိုင်နီယီးန် စစ်ပွဲ၊ ဟိုဒိုင်ဗီယဟ် စစ်ပြေငြိမ်းရေးစာချုပ် ချုပ်ဆိုမှုများ ဖြစ်ခဲ့သည်။ ဟဇရသ် အွမ့်မေ့ဟဘီဘဟ် (ရမ်လဟ်) သခင်မကြီးနှင့် ထိမ်းမြားခဲ့သည်။

သက်တော် (၅၉) ဟစ်ဂျ်ရီ (၇) ခုနှစ်တွင်. . . ကမ္ဘာအဝှမ်းရှိ ဘုရင်များထံသို့ သဝဏ်လွှာများ ပေးပို့ခဲ့သည်။ ဂါဗဟ်၊ ခိုင်ဗရ်၊ ဝါဒိလ်ကိုရာ၊ ဇားသွရ်ရေ့ကားအ် တို့ဖြစ်ပွားခဲ့သည်။ ကိုယ်တော်မြတ်ကြီး ﷺ အား ဆိတ်သားတွင် အဆိပ်ခတ်ကျွေးရန် ကြိုးပမ်းခဲ့သည်။ ဟဇရသ် ဆွဖီယဟ် ဗင်န်သေ့ ဟိုယိုင်ယ်၊ ဟဇရသ် မိုင်မူနာတို့နှင့် ထိမ်းမြားခဲ့သည်။ (အွမ်ရသွလ် ကဿွာ) ဟစ်ဂျ်ရီ (၆)ခုနှစ်တွင် မပြုနိုင်ခဲ့သည့် အိုမရဟ်ကို ပြန်လည် ပြုခဲ့သည်။

သက်တော် (၆၀) ဟစ်ဂျ်ရီ (၈)ခုနှစ်တွင်. . . မောင်ဝ်သဟ်၊ ဟိုနိုင်းန်၊ သွာအိဖ် စစ်ပွဲများဖြစ်ပွားခဲ့သည်။ မက္ကာဟ်ရွှေမြို့တော်ကိုလည်း သိမ်းပိုက်အောင်နိုင်ခဲ့သည်။ ချစ်နဗီ၏ သမီးတော် ဇိုင်နဗ် သခင်မနှင့် သားတော် အိဗ်ရာဟီးမ် သခင်တို့ ကွယ်လွန်ခဲ့သည်။

သက်တော် (၆၁) ဟစ်ဂ်ျရီ (၉) ခုနှစ်တွင်. . . သဗူးက် စစ်ပွဲဖြစ်ပွားခဲ့သည်။ ဇေနာကျူးလွန်ခဲ့ကြောင်း ဝန်ခံလာသည့် အမျိုး-သမီးအား ခဲပေါက်ပစ်ရန် အမိန့်တော်ပေးခဲ့သည်။ မြောက်များစွာသော အုပ်စုများ အစ္စလာမ့်အေးရိပ်ဆာယာအောက်တွင် ခိုလှုံရန် ရောက်ရှိလာခဲ့သည်။

သက်တော် (၆၂) ဟစ်ဂ်ျရီ (၁၀) ခုနှစ်တွင်. . . ဟဂ်ျဂျသွလ် ဝဒါအ် (နောက်ဆုံး နှုတ်ဆက်ဟဂ်ျ) ပြုခဲ့သည်။

သက်တော် (၆၃) ဟစ်ဂ်ျရီ (၁၁) ခုနှစ်တွင်. . . ဆွဖရ်လ (၂၉) ရက်နေ့တွင် ကွယ်လွန်ရာပါ ရောဂါ စတင်ခဲ့သည်။ ရဗီအွလ် အောက်-ဝလ် (၁၂)ရက်၊ တနင်္လာနေ့ နံနက် နေတက်ချိန်တွင် ကမ္ဘာတခွင်အား တရားလမ်းမှန်၏ အလင်းတန်းများကွန့်မြူးစေသည့် တစ်ဆူတည်းသော နေမင်းကြီး ကွယ်ပျောက်သွားခဲ့သည်။

إنا لله و إنا إليه راجعون

ရဗီအွလ် အောက်ဝလ် ၁၄ ရက် ဗုဒ္ဓဟူးနေ့ ညဥ့်အချိန်တွင် မိခင်မွန်ကြီးဟဇရသ် အာအေရှာ သခင်မကြီး၏ အခန်းတွင် မြုပ်နှံခံခဲ့ရသည်။

ချစ်နဗီအား ရေချိုးပေးရန် တာဝန်ယူခဲ့သူများမှာ. . .

(၁) ဟဇရသ် အလီ (၂+၃+၄) ဟဇရသ်အဗ္ဗားစ် နှင့် သားတော်နှစ်ပါး ဖသ်ွလ် နှင့် ကိုဆမ် (၅) ဟဇရသ် အိုစာမဟ် (၆) ရှုတ်က်ရားန် (၇) အန်ဆွာရီဆွဟာဗာများမှ ဟဇရသ် အောင်ဝ်စ် ဗင်န် ခေါင်လီ လည်း ရှိခဲ့သည်။

အဖြူရောင် စဟူးလ်နယ်ထုတ် ပိတ်စ (၃)ခုနှင့် ကဖန်ထုတ် ပေးခြင်း ခံရသည်။ မွတ်စ်လင်မ်တို့သည် တစ်ဦးစီ ချစ်နဗီအတွက် ဂျနာဇာ နမားဇ် ဖတ်ခဲ့ကြသည်။

ရှုတ်က်ရားန်သခင်သည်ချစ်နဗီ၏ ကဗရ်တွင် ကိုယ်တော်မြတ်ကြီး အမြဲခြုံလေ့ရှိသော အနီရောင်ပုဝါတစ်ခုလည်း ခင်းကျင်းလိုက်သည်။

ဟဇရသ်အဗူသွလ်ဟာသည် ကိုယ်တော်မြတ်ကြီး ﷺ အတွက် ကဗရ်တွင်းတူးခွင့်ရခဲ့သည်။ ဆွဟာဗာတို့သည် ကဗရ်တော်အား အုပ်(၉) ချပ်ဖြင့် ပိတ်လိုက်ကြသည်။

يارب صل وسلم دائما أبدا على حبيبك خير الخلق كلهم

**ကိုယ်တော့်ကို့တမ်းတ**
**လွမ်းရ ညမှာ**
**ကိုယ်တော့်ကိုယ်စား**
**လမင်းတစ်ရာ**
**သာသော်ငြားလည်း**
**ကျွန်တော့်ရင်တွေ**
**နွေပြီးနွေ...**

*အလီ-(ချောက်)*



# မှီငြမ်းကျမ်းများ

| စဉ် | ကျမ်းအမည် | ကျမ်းရှင် | ပုံနှိပ်တိုက် |
|---|---|---|---|
| ၁ | القرآن الكريم | | |
| ၂ | الصحيح للإمام البخاري | محمد بن إسماعيل | المكتبة الشاملة ( الإصدار الثالث ) |
| ၃ | الصحيح للإمام مسلم | مسلم بن حجاج | ။ |
| ၄ | السنن للإمام أبي داود | سليمان بن أشعث | ။ |
| ၅ | السنن اللإمام النسائي | أحمد بن علي | ။ |
| ၆ | السنن للإمام الترمذي | محمد بن عيسى | ။ |
| ၇ | السنن للإمام ابن ماجة | محمد بن يزيد | ။ |
| ၈ | تهذيب السيرة النبوية | الإمام يحى النووي | مكتب النسيم |
| ၉ | الروض الأنف | عبدالرحمن ابن عبد الله السهيلي | دارالكتب العلمية لبنان |
| ၁၀ | تاريخ دمشق | علي بن الحسن المعروف بابن عساكر | دار الفكر للنشر والتوزيع |
| ၁၁ | تهذيب سيرة ابن هشام | عبدالسلام هارون | مكتبة السنة ـ القاهرة |

| | | | |
|---|---|---|---|
| ၁၂ | السيرة النبوية | الشيخ أبوالحسن علي الندوي | المجمع الإسلامي العلمي ـ الهند |
| ၁၃ | سيرة النبي ﷺ (الأردية) | العلامة الشبلي النعماني | المكتبة المدنية لاهور ـ باكستان |
| ၁၄ | نور العيون في تلخيص سيرة الأمين المأمون ﷺ | محمدبن محمد المعروف بابن سيد الناس | المجمع العلمي لنشر المناهج والعلوم الإسلامية ـ بجامعة الكوثر الإسلامية |
| ၁၅ | السيرة النبوية دروس وعبر | د ـ مصطفى السباعي | ॥॥ |
| ၁၆ | شعراء الرسول ﷺ | د ـ سعيد الرحمن الأعظمي | مكتبة فردوس الإسلامية (لكناؤ ـ الهند) |
| ၁၇ | سيرة خاتم النبيين للفتيان والفتيات | الشيخ أبو الحسن | جامعة الكوثر الإسلامية |
| ၁၈ | المذكرة للمتخرجين من مظاهر علوم (سهارنفور) | نخبة من الطلبة (مظاهر علوم ) | ٢٠٠٩م |
| ၁၉ | رحمة للعالمين (الأردية ) | القاضي سليمان المنصوبوري | المكتبة المحمودية سهارنفور |
| ၂၀ | السيرة المحمد ية للإنسانية (الأردية) | الشيخ محمد الرابع | المجمع العلمي (الهند) |

بحمد الله تعالى

## အလွမ်းခဲ့တဲ့လ

✡ အို. . . ချစ်သော နဗီ
စိတ်က အတိတ်ဆီရွှေ့လျား
ရဗီအွလ် အောက်ဝလ် နေ့များမှာ
ဂရုဏာရှင် ဖွားမြင်တဲ့လ
နှိပ်စက်ကြတဲ့ အလွမ်းများ အသချေ
မိုးလင်းတိုင်း လွမ်းစိတ်က မပြေခဲ့ပေါ့. . .။

✡ နှစ်ဘဝရဲ့ လမ်းပြသခင်
အကြင်နာ တစ်ပွေ့တပိုက်
ရင်မှာ ထိုးစိုက်လို့ ပန်ဆင်
ကြန်အင်ရယ် တစ်မူထူး
အလင်းပြပန်းလေးတွေ ဖူးပွင့်စေခဲ့သူ. . .။

✡ နောက်ဆုံးသော ဒီအွမ့်သ်
ဟေဒါရသ် ရဖို့အရေး
ဘဝမျိုးစုံနဲ့ စတေးခဲ့သူ. . .။
ဒီအွမ့်သ် အတွက်ဆို

လပြည့်ဝန်းခမျာ ဝပ်ဆင်းရှာတဲ့
သွယ်လျတဲ့ မျက်နှာ တံတွေးရာ တင်ခံခဲ့သူ. . . ။
တစ်ရက်မှာသာစား နောက်ရက်ဝယ်အငတ်ခံ
ဒီလိုဒဏ်မျိုးလည်း ခံယူခဲ့သူ. . . ။

✧ ချစ်စရာ သမီးတော်လေးတွေဘဝ
ခင်ပွန်းတွေ ပစ်ခွာတာကို ဂရုမစိုက်
အွမ်မှသ်အတွက် အာရုံစိုက်ခဲ့သူ. . . ။
လူသားတွေ နှိပ်စက်ကလူ
ဘယ်လိုပင်ပြုကြဦးတော့ အမုန်းရယ်မဖက်
"သူရူး"လို့ ကင်ပွန်းတပ်လည်း အပြုံးမျက်နှာနဲ့သူ. . . ။

✧ ဒီအွမ်မှသ် အတွက်ပဲ
လောကစည်းစိမ်တွေ ခဝါချ
ဘာမှ မထည့်ဝါခဲ့သလို
ဇာတိကိုစွန့်ခွာ တစ်မြို့တစ်ရွာကိုပြောင်း
ဒုက္ခချောင်းစီးခဲ့သမျှ
လက်မကိုကွေး လက်ညှိုးလေးနဲ့လည်း မထိုးရက်ခဲ့သူ. . . ။

✧ အရှင့်ထံကို ပြန်ဖို့အချိန်တန်
မူမမှန်တော့တဲ့ အသက်ရှူသံကြား

ခပ်သဲ့သဲ့ သံဖျားရယ်ထွက်
'အွမ္မသ်'. . . 'အွမ္မသ်' လို့ငြီးတွားခဲ့သူ. . .။

 နဗီကို သတိရ
တမ်းတခြင်းကဗျာတွေဖွဲ့သီ
လဲ့ကြည့်ကာခိုတွဲ စိုရွှဲခဲ့မျက်ရည်
တို့တွေကိုခွဲခွာ ဒီလမှာပဲထားရစ်
မြွားပစ်ချက်လွမ်းဒဏ်ရာ ရင်ခွင်မှာကျင်နာစူး
ရာသီတွေ ဘယ်လူကူးဆက်
(ချစ်ရသော နဗီကိုဖြင့်)
မမေ့ရက်ခဲ့ဘူး. . .။

**အလီ(ချောက်)**

# လမင်းနဲ့ ကြယ်စင်များ

⚜ ဟိုးလွန်ခဲ့တဲ့နှစ်
သက္ကရာဇ် ၁၄၀၀ ကပေါ့...
အမှားနဲ့အမှန်ကိုမမြင်
ငါသာလျှင်ဘုရင်လို့ကြွေးကြော်
လူလို့တောင်ခေါ်ရမှာခက်
မိုက်တွင်းနက်ခဲ့တဲ့အချိန်

⚜ ကမ္ဘာရဲ့ဇာတ်ဟိုချက်
အရစ်လို့မည်ခေါ်တွင်
ကိုယ်ထင်ရာကိုယ်စိုင်း
ဘယ်တိုင်းပြည်ကမှမဆက်ဆံ
အဖက်မတန်ပြုနေကြချိန်
လမ်းလျှောက်ရင်းလမ်းပျောက်
စိတ်အလိုနောက်ကိုလျှောက်လှမ်းချိန်

⚜ လူ့အဆင့်အတန်းက "သုည" အောက်
ဦးနှောက်တွေသာရှိ
နလုံးသားမျက်စိကန်းနေသူတွေကို
ကွယ်ပျောက်နေတဲ့ပန်းတိုင်
လှမ်းကိုင်နိုင်စေဖို့
အကြင်နာတွေနဲ့လတစ်စင်း
မြေပြင်ကိုသက်ဆင်းခဲ့လေပြီ။..

⚜ အထာမကျတဲ့ဘဝတွေကို
သာမညလိုသဘောမထားခဲ့
အများနဲ့တစ်ယောက်သမားပေမယ့်
အကြောက်တရားရယ်မရှိ
ထောက်ထားစာနာမှုအကြည့်တွေက
လမင်းကြီးထံပြည့်လျှံလို့ပေါ့။..

⚜ အမှားနွံထဲ နစ်နေသူတွေကို
အစ္စလာမ့်ရဲ့ဒေသနာတွေနဲ့
ကြေညာကာ ဆွဲထုတ်
တစ်ချိန်က အနေစုတ်ခဲ့တဲ့ဘဝတွေ
လမင်းရဲ့အရိပ်အောက်ခိုလှုံရင်း
တဖြည်းဖြည်းခြင်းအနေမှန်
ပေတံလို "စံ" ထားခံရ
အစ္စလာမ့်ရဲ့ရန်တံခါးတွေရိုက်ချိုး
ဂျန္နသ်ရဲ့သီးနှံတွေစိုက်ပျိုးရင်း
လမင်းနဲ့ကြယ်စင်ရဲ့အလင်း
ကမ္ဘာမြေမှာ ဖြာလင်းလို့နေပြီ။...

အလီ(ချောက်)